# နိုင်ငံသားစိစစ်ရေးကတ်ပြား



အမှတ် ၁၂/ဗဟန(နိုင်)၁၀၆၃၉၇

ရက်စွဲ ၈.၄.၉၇

အမည် ဦးဝေအောင်ထွန်းကျော်

ဖခင်အမည် ဦးလှမြင့်

မွေးသက္ကရာဇ် ၁၇.၅.၁၉၆၄

လူမျိုး/ဘာသာ ဗမာ/ဗုဒ္ဓဘာသာ

အရပ် ၅'၉" သွေးအုပ်စု ဘီ

ထုတ်ပေးသူလက်မှတ်

အမည်

ရာထူး

ထင်ရှားသည့်အမှတ်အသား [illegible]

---

အမှတ်စဉ် P 945298

သက်သေခံကတ်ပြားအမှတ် ALE ၀၀၂၁၃၃

အလုပ်အကိုင် ကုန်သည်

နေရပ်လိပ်စာ [illegible]

လက်ဝဲလက်မပုံစံ

ထိုးမြဲလက်မှတ်

၁။ ဤကတ်ပြားကို အမြဲဆောင်ထားရမည်။

၂။ ပျောက်ဆုံး၊ ပျက်စီးသည့်အခါ သက်ဆိုင်ရာ ရဲစခန်း၊ မြို့နယ်လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနရုံးသို့ သတင်းပို့ရမည်။

၃။ ဤလက်မှတ်ကို အသက်( - )နှစ်ပြည့်လျှင် လဲလှယ်ရမည်။ ဖျက်ကွက်ပါက အရေးယူခြင်းခံရမည်။

Allen&Gledhill

မူကြမ်း ၂၂/၁၂/၂၀၁၅

နေ့ရက် **[•]**

**ကျန်းမာရေးဝန်ကြီးဌာန၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**နှင့်**

# တည်ဆောက်၊ လည်ပတ်နှင့် လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်

**ALLEN & GLEDHILL (MYANMAR) CO., LTD.**
NO. 05-03, UNION BUSINESS CENTRE (UBC)
NAT MAUK ROAD, BO CHO QUARTER
BAHAN TOWNSHIP, YANGON
MYANMAR

အကြောင်းအရာ


မာတိကာ ........................................................................................................ စာမျက်နှာ

၁။ အဓိပ္ပာယ်ဖွင့်ဆိုချက်များနှင့်ရှင်းလင်းချက်များ ........................................ 3

၂။ အာမခံချက်များနှင့်ကိုယ်စားပြုမှုများ ........................................ 5

၃။ တည်ဆောက်၊လည်ပတ်နှင့်လွှဲပြောင်းမှု ........................................ 6

၄။ မြေအသုံးချမှုပရီမီယံနှင့်နှစ်စဉ်ငှားရမ်းခ ........................................ 8

၅။ ဆေးရုံတည်ဆောက်ခြင်း ........................................ 10

၆။ အငှားချထားသူ၏တာဝန်ဝတ္တရားများ ........................................ 11

၇။ အငှားချထားခံရသူ၏တာဝန်ဝတ္တရားများ ........................................ 12

၈။ အငှားချထားမြေနှင့်စပ်လျဉ်းသည့်ငွေပေးချေမှုများ ........................................ 13

၉။ လုပ်ငန်းဆောင်ရွက်မှုအာမခံချက် ........................................ 13

၁၀။ ပြန်လည်ဝင်ရောက်ပိုင်ခွင့် ........................................ 13

၁၁။ ပတ်ဝန်းကျင်နှင့်တွင်းထွက်ဓာတ်သတ္တုသယံဇာတများကာကွယ်စောင့်ရှောက်မှု ........................................ 14

၁၂။ မလွန်ဆန်နိုင်သောဖြစ်ရပ် ........................................ 14

၁၃။ စာချုပ်ရပ်စဲခြင်း ........................................ 15

၁၄။ တိုးမြှင့်ငှားရမ်းကာလများ ........................................ 16

၁၅။ အလုံးစုံသဘောတူညီချက် ........................................ 18

၁၆။ ဖြည့်စွက်ပြင်ဆင်ချက်များနှင့်ပြန်လည်ညှိနှိုင်းမှု ........................................ 18

၁၇။ အကြောင်းကြားခြင်း ........................................ 19

၁၈။ တတိယအဖွဲ့များ၏အခွင့်အရေးများ ........................................ 20

၁၉။ မူပွားများ ........................................ 20

၂၀။ ဘာသာစကား ........................................ 20

၂၁။ လွှမ်းမိုးဥပဒေ ........................................ 20

၂၂။ အငြင်းပွားမှုဖြေရှင်းခြင်း ........................................ 21

## တည်ဆောက်၊ လည်ပတ်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်

ဤတည်ဆောက်၊ လည်ပတ်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကို ............. ခုနှစ်၊ ................. လ (........) ရက်နေ့တွင်

၁။ ကျန်းမာရေးဝန်ကြီးဌာန၊ ........................ ဌာန၊ ........................ (ရာထူး) ဦး/ဒေါ် ........................... ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၊ ကျန်းမာရေးဝန်ကြီးဌာန (နောင်တွင် အငှားချထားသူဟု ခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်နှင့်

၂။ Andaman Alliance Healthcare Limited မှ ........................ ဌာန၊ ........................ (ရာထူး) ဦး/ဒေါ် ........................... နိုင်ငံသားစိစစ်ရေးအမှတ်/နိုင်ငံကူးမှတ်ပုံတင်အမှတ် ............................. ကိုယ်စားပြုသော Andaman Alliance Healthcare Limited (နောင်တွင် အငှားချထားခံရသူ ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) က အခြားတစ်ဖက်တို့က

အောက်ဖော်ပြပါ စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ ချုပ်ဆိုကြပါသည်။

**ဤသဘောတူစာချုပ်သည် အောက်ပါအချက်များကို ဖော်ညွှန်း၍ သက်သေပြုပါသည်။**

(က) ဤစီမံကိန်းကို စီးပွါးရေးအကျိုးအမြတ်တစ်ခုတည်းအတွက် မဟုတ်ဘဲ နိုင်ငံတကာအဆင့်မီဆေးရုံတည်ဆောက်ခြင်းဖြင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ရှိ ကျန်းမာရေးစောင့်ရှောက်မှု အဆင့်အတန်းကို ပိုမိုတိုးတက်စေရန် ရည်ရွယ်ခြင်းကတစ်ကြောင်း၊

(ခ) အငှားချထားသူသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ရှိ ကျန်းမာရေးဝန်ကြီးဌာနဖြစ်ပြီး ဤသဘောတူကတိစာချုပ်ပါ သတ်မှတ်ချက်များနှင့်အညီ အငှားချထားမြေကို ဆေးရုံတည်ဆောက်၊ လည်ပတ်ရန်နှင့် ငှားရမ်းခြင်းခံရသူကို ခွင့်ပြုချက်ပေးရန်အတွက် ဥပဒေအရ အခွင့်အာဏာ အပြည့်အဝရှိခြင်းကတစ်ကြောင်း၊

(ဂ) အငှားချထားခံရသူသည် နိုင်ငံတကာအဆင့်ရှိ ဆေးရုံများကို ပိုင်ဆိုင်သည့် ကုမ္ပဏီများအတွင်းရှိ တရားဝင်အဖွဲ့အစည်းတစ်ရပ်ဖြစ်ပြီး အငှားချထားမြေတွင် ဆေးရုံဆောက်လုပ်လည်ပတ်ရန် ဆန္ဒရှိသည်ကတစ်ကြောင်း၊

အောက်ပါအတိုင်း **သဘောတူညီကြပါသည်။**

## ၁။ အဓိပ္ပာယ်ဖွင့်ဆိုချက်များနှင့် ရှင်းလင်းချက်များ

### ၁.၁။ အဓိပ္ပာယ်ဖွင့်ဆိုချက်များ

အခြားနည်းဖြင့် ဆန့်ကျင်ကွဲလွဲသည့် ဖော်ပြချက်များ စကားရပ်များ မရှိပါက ဤသဘောတူစာချုပ်နှင့် နောက်ဆက်တွဲဇယားများတွင်

"**သဘောတူစာချုပ်**" ဆိုသည်မှာ ဤသဘောတူစာချုပ်ကို ဆိုလိုခြင်းဖြစ်ပြီး ယင်းတွင် နောက်ဆက်တွဲ ဇယား(၁)ပါဝင်သည်။

"**ပျက်ကွက်စာချုပ်ဝင်**" ဆိုသည်မှာ အပိုဒ် ၁၃.၂.၁ တွင် ဖော်ပြထားသည့်အတိုင်းဖြစ်သည်။

"**စာချုပ်အကျိုးသက်ရောက်သည့်နေ့ရက်**" ဆိုသည်မှာ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုး ချုပ်ဆိုသည့်နေ့ရက်ဖြစ်သည်။

"**တိုးမြှင့်ငှားရမ်းကာလ**" ဆိုသည်မှာ ပထမတိုးမြှင့်ငှားရမ်းကာလ သို့မဟုတ် ဒုတိယတိုးမြှင့်ငှားရမ်းကာလကို ဆိုလိုခြင်းဖြစ်ပြီး "**တိုးမြှင့်ငှားရမ်းကာလများ**"ဆိုသည်မှာ ယင်းသက်တမ်းနှစ်ရပ်စလုံးကို ဆိုလိုသည်။

"**ပထမတိုးမြှင့်ငှားရမ်းကာလ**" ဆိုသည်မှာ အပိုဒ် ၃.၂.၂တွင် ဖော်ပြထားသည့်အတိုင်းဖြစ်သည်။

"**မလွန်ဆန်နိုင်သောဖြစ်ရပ်**" ဆိုသည်မှာ စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိ၊ ဝီရိယရှိစေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် ဖြစ်ရပ်များဖြစ်ပြီး သဘာဝဘေးအန္တရာယ်များ၊ ရေကြီးမှု၊ တိုင်းပြည်၏ အရေးပေါ်အခြေအနေ၊ စစ်မက်ဖြစ်ပွားမှု သို့မဟုတ် သူပုန်ထမှု စသည်တို့ကဲ့သို့ အပါအဝင် စာချုပ်ပါ ဆောင်ရွက်ချက်များကို တိုက်ရိုက်သော်လည်းကောင်း သွယ်ဝိုက်၍သော်လည်းကောင်း တားဆီးခြင်း သို့မဟုတ် နှောင့်နှေးစေခြင်းတို့ဖြစ်ပေါ်စေသည့် ဖြစ်ရပ်များကို ဆိုလိုသည်။

"**ကင်းလွတ်ခွင့်ပြုကာလ**" ဆိုသည်မှာ အပိုဒ် ၃.၁ တွင် ဖော်ပြထားသည့်အတိုင်းဖြစ်သည်။

"**ဆေးရုံ**" ဆိုသည်မှာ အငှားချထားမြေပေါ်တွင် ဆောက်လုပ်လည်ပတ်မည့် ပုဂ္ဂလိကဆေးရုံကို ဆိုလိုသည်။

"**ကနဦးငှားရမ်းကာလ**" ဆိုသည်မှာ အပိုဒ် ၃.၂.၁ တွင် ဖော်ပြထားသည့်အတိုင်းဖြစ်သည်။

"**ကနဦးငှားရမ်းကာလစတင်သည့်နေ့ရက်**" ဆိုသည်မှာ ဖွင့်လှစ်သည့်နေ့ရက် သို့မဟုတ်ကင်းလွတ်ခွင့်ပြုကာလ ပြီးဆုံးပြီးသည့် ကပ်လျက် နေ့ရက်တို့အနက် အစောဆုံးနေ့ရက်ကို ဆိုလိုသည်။

"**ဥပဒေများ**" ဆိုသည်မှာ မြန်မာနိုင်ငံ၏ ဥပဒေများကို ဆိုလိုသည်။

"**မြေအသုံးချမှုပရီမီယံ**" ဆိုသည်မှာ အပိုဒ် ၄.၃ တွင် ဖော်ပြထားသည့်အတိုင်းဖြစ်သည်။

"**ငှားရမ်းမှု**" ဆိုသည်မှာ အပိုဒ် ၃.၂.၁ တွင် ဖော်ပြထားသည့်အတိုင်းဖြစ်သည်။

"**MIC**" ဆိုသည်မှာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်များကို နိုင်းချင့်သုံးသပ်ရန် မြန်မာနိုင်ငံ၏ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ ၂၀၁၂ အရ ပြဋ္ဌာန်းဖွဲ့စည်းထားသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ကို ဆိုလိုသည်။

"**MIC ခွင့်ပြုမိန့်**" ဆိုသည်မှာ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များနှင့် ခွင့်ပြုရင်းနှီးမြှုပ်နှံမှုသက်တမ်းကာလတို့ အပါအဝင် စီမံကိန်းအတွက် ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဓိကအရေးပါသည့် စည်းကမ်းသတ်မှတ်ချက်များကို ခွင့်ပြု၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ထုတ်ပေးသည့် ကော်မရှင်၏ သဘောတူခွင့်ပြုချက်ကို ဆိုလိုသည်။

"**မြန်မာနိုင်ငံ**" ဆိုသည်မှာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ကို ဆိုလိုသည်။

"**မပျက်ကွက်သည့်စာချုပ်ဝင်**" ဆိုသည်မှာ အပိုဒ် ၁၃.၂.၁ တွင် ဖော်ပြထားသည့်အတိုင်း ဖြစ်သည်။

"**ဖွင့်လှစ်သည့်နေ့ရက်**" ဆိုသည်မှာ ပုဂ္ဂလိက ကျန်းမာရေးလုပ်ငန်းဆိုင်ရာ ဗဟိုအဖွဲ့မှ ဆေးရုံလိုင်စင်ကိုထုတ်ပေး၍ လုပ်ငန်းစတင်ခွင့်ပြုသည့် နေ့ရက်ကို ဆိုလိုသည်။

"**ခွင့်ပြုချက်**" ဆိုသည်မှာ အပိုဒ် ၃.၁ တွင် ဖော်ပြထားသည့်အတိုင်းဖြစ်သည်။

"**စီမံကိန်း**" ဆိုသည်မှာ ဆေးရုံ ဆောက်လုပ်ခြင်း၊ လည်ပတ်ခြင်းနှင့် ပြန်လည်လွှဲပြောင်းခြင်း ကို ဆိုလိုသည်။

"**အငှားချထားမြေ**" ဆိုသည်မှာ ပူးတွဲပါ နောက်ဆက်တွဲဇယား ၁ တွင် သတ်မှတ်ပိုင်းခြား ဖော်ပြထားသည့် မြေကွက်နှင့် ၎င်းမြေပေါ်တွင် ဆောက်လုပ်သည့် အဆောက်အအုံ(များ)၏ တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ အပြည့်အဝကိုဖြစ်စေ ဆိုလိုသည်။

"**ဒုတိယတိုးမြှင့်ငှားရမ်းကာလ**" ဆိုသည်မှာ အပိုဒ် ၃.၂.၃ တွင် ဖော်ပြထားသည့်အတိုင်း ဖြစ်သည်။

"**သတ်မှတ်ဘဏ်စာရင်းနံပါတ်**" ဆိုသည်မှာ အပိုဒ် ၄.၃.၂ တွင် ဖော်ပြထားသည့်အတိုင်းဖြစ်သည်။

**၁.၂။ အထွေထွေ**

အခြားနည်းဖြင့် ကွဲလွဲမှုများမရှိပါက အောက်ပါရှင်းလင်းချက်များအတိုင်း သက်ရောက်မှုရှိပါသည်။

၁.၂.၁။ လူပုဂ္ဂိုလ်တစ်ဦးဟုဆိုရာတွင် တစ်ဦးတစ်ယောက်ချင်းသော်လည်းကောင်း ကော်ပိုရေးရှင်းသော်လည်းကောင်း ပါဝင်ပါသည်။

၁.၂.၂။ အငှားချထားသူဟု ရည်ညွှန်းရာတွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ၊ ဤသဘောတူစာချုပ်ပြီးဆုံးပြီးနောက်တွင် အငှားချထားမြေကို ပိုင်ဆိုင်ခွင့်ရှိသူများအားလုံး ပါဝင်သည်။ အငှားချထားခံရသူဟု ရည်ညွှန်းရာတွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။

၁.၂.၃။ ဤသဘောတူစာချုပ်၏ နောက်ဆက်တွဲဇယားနှင့် နောက်ဆက်တွဲတိုင်းကို စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သည်။

၁.၂.၄။ အခြားနည်းဖြင့် ဖော်ပြထားခြင်းမရှိပါက စကားလုံးတစ်လုံး သို့မဟုတ် ပြဋ္ဌာန်းချက်တစ်ရပ်သည် အခြားစကားလုံး သို့မဟုတ် ပြဋ္ဌာန်းချက်၏ သက်ရောက်မှုကို ကန့်သတ်မထားပါ။

၁.၂.၅။ တစ်ခုလုံးကို ရည်ညွှန်းချက်သည် တစ်စိတ်တစ်ဒေသလည်း ပါဝင်သည်။

၁.၂.၆။ အကယ်၍ ဤသဘောတူစာချုပ်အရ အငှားချထားသူ၏ သဘောတူညီချက် သို့မဟုတ် ခွင့်ပြုချက်ကို လိုအပ်သောအခြေအနေမျိုးတွင် ယင်းသဘောတူညီချက် သို့မဟုတ် ခွင့်ပြုချက်ကို ခိုင်လုံသောအကြောင်းတစ်စုံတစ်ရာမရှိဘဲ ဆုပ်ကိုင်ထားခြင်းမပြုရ။

၁.၂.၇။ ဥပဒေအရ ပြဋ္ဌာန်းချက်များကို ရည်ညွှန်းချက်တစ်ရပ်ရပ်တွင် စာချုပ်အကျိုးသက်ရောက်သည့်နေ့ရက်တွင် စတင်အာဏာတည်သည့် ယင်းပြဋ္ဌာန်းချက်အောက်တွင် အခါအားလျော်စွာ သတ်မှတ်သည့် အခြားပြဋ္ဌာန်းချက်များလည်း ပါဝင်သည်။

## ၂။ အာမခံချက်များနှင့် ကိုယ်စားပြုမှုများ

၂.၁။ စာချုပ်ဝင်အသီးသီးသည် အခြားစာချုပ်ဝင်တစ်ဖက်ဖက်၏ အကျိုးအတွက် အောက်ပါအချက်များကို အာမခံ၍ ကိုယ်စားပြုပါသည်။

၂.၁.၁။ အငှားချထားသူသည် –

(၁) မြန်မာနိုင်ငံ၊ ပြည်ထောင်စုအဆင့်ဝန်ကြီးဌာနဖြစ်သည့် ကျန်းမာရေးဝန်ကြီးဌာနသည် အငှားချထားမြေကို ဥပဒေကြောင်းအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိသူနှင့် အကျိုးခံစားခွင့်ရှိသူဖြစ်ပြီး တာဝန်ယူခွင့်နှင့် စီမံခန့်ခွဲခွင့် ရှိပါသည်။

(၂) အငှားချထားမြေသည် မည်သည့်တောင်းဆိုမှု၊ ကြွေးမြီတာဝန်အရှုပ်အရှင်းများနှင့် သတိပေးတားမြစ်ချက်များ မရှိကြောင်း အာမခံပါသည်။

၂.၁.၂။ အငှားချထားခံရသူသည် –

(၁) မြန်မာနိုင်ငံတည်ဆဲဥပဒေများအရ ကုမ္ပဏီဖွဲ့စည်းတည်ထောင်ထားပြီး တရားဝင်တည်ရှိခြင်းဖြစ်ကြောင်း အာမခံပါသည်။

(၂) ဆောင်ရွက်လျက်ရှိသော၊ ဆောင်ရွက်ရန် အဆိုပြုထားသော လုပ်ငန်းများကို ဆောင်ရွက်နိုင်သည့် အခွင့်ရှိကြောင်း အာမခံပါသည်။

၂.၁.၃။ (၁) ဥပဒေနှင့်အညီ သဘောတူစာချုပ်ကို ချုပ်ဆိုရန်၊ ၎င်း၏အခွင့်အရေးများကို ကျင့်သုံးဆောင်ရွက်ရန်၊ ဤသဘောတူစာချုပ်ပါ တာဝန်ဝတ္တရားများကို ဆောင်ရွက်၊ လိုက်နာနိုင်ရန် (၂) ယင်းတာဝန်ဝတ္တရားများသည် တရားဝင်မှု၊ ဥပဒေနှင့်ညီညွတ်မှု၊ အာဏာတည်စေနိုင်မှု ရှိခြင်းတို့ သေချာစေရန်နှင့် (၃) ဤသဘောတူစာချုပ်ကို မြန်မာနိုင်ငံ တရားရုံးများတွင် အထောက်အထားအဖြစ် တင်ပြနိုင်ခွင့်ရှိစေရန် စသည်တို့အတွက် ဆောင်ရွက် ဖြည့်ဆည်း အကောင်အထည်ဖော်ဆောင်ရမည့် လုပ်ငန်းဆောင်ရွက်ချက်များ၊ အခြေအနေများနှင့် ကိစ္စအဝဝကို ဆောင်ရွက် ဖြည့်ဆည်း အကောင်အထည်ဖော်ဆောင်မည်ဖြစ်ကြောင်း အာမခံပါသည်။

၂.၁.၄။ စာချုပ်ချုပ်ဆိုမှု၊ ၎င်း၏အခွင့်အရေးများကို ကျင့်သုံးမှုနှင့်/သို့မဟုတ် စာချုပ်ပါ တာဝန်ဝတ္တရားများကို ဆောင်ရွက်၊ လိုက်နာမှုတို့သည် သက်ဆိုင်ရာ ဥပဒေများက ခွင့်ပြုသည့် သို့မဟုတ် ပြဋ္ဌာန်းသည့် အခွင့်အာဏာများ သို့မဟုတ် ကန့်သတ်ချက်များကို ချိုးဖောက်ခြင်း သို့မဟုတ် ကျော်လွန်ခြင်းတို့မဖြစ်စေရန် အာမခံပါသည်။

၂.၂။ အာမခံချက်များကို စာချုပ်ဝင်တစ်ဖက်ဖက်က အပိုဒ် ၂.၁ နှင့်အညီ တိုးမြှင့်နိုင်ပြီး ယင်းတို့ကို ကနဦးငှားရမ်းကာလနှင့် တိုးမြှင့်ငှားရမ်းကာလတစ်ရပ်ရပ် စတင်သည့်အချိန်တွင် စာချုပ်ဝင်အသီးသီးက ထပ်လောင်းအာမခံရမည်ဖြစ်ကြောင်း မှတ်ယူရမည်။

## ၃။ တည်ဆောက်၊ လည်ပတ်နှင့် လွှဲပြောင်းမှု

### ၃.၁။ ဆောက်လုပ်ရန်ခွင့်ပြုချက်

အငှားချထားသူသည် အငှားချထားခံရသူထံ အောက်ပါတို့ကို ခွင့်ပြုပေးပြီး အငှားချထားခံရသူသည် အောက်ပါတို့ကို လက်ခံပါသည်။ အငှားချထားခံရသူနှင့် ၎င်း၏တရားဝင်အခွင့်ရရှိသူများအားလုံးအနေဖြင့် စာချုပ်အကျိုးသက်ရောက်သည့်နေ့ရက်နှင့်ယင်းနေ့ရက်အပြီး ၄၈ လ သို့မဟုတ် အပိုဒ် ၅.၂ နှင့်အညီ

တိုးမြှင့်နိုင်သည့် နေ့ရက်မှစတင်၍("**ကင်းလွတ်ခွင့်ပြုကာလ**") အတွက် တည်ဆောက်ရေးကာလအတွင်း စီမံကိန်းကို ဆောက်လုပ် အကောင်အထည်ဖော်ဆောင်ရန်အတွက် (လုပ်သားများ၊ ပစ္စည်းကိရိယာများ၊ ကုန်ပစ္စည်းများနှင့် တန်ဆာပလာများကို ငှားရမ်းမည့်မြေသို့ ယူဆောင်လာခွင့်ကဲ့သို့သော) ငှားရမ်းမည့်မြေသို့ ခြွင်းချက်မရှိ၊ အတားအဆီး၊ အကန့်အသတ်မရှိ ဝင်ရောက်သုံးစွဲနိုင်သည့် အငှားချထားသူ၏ ခွင့်ပြုချက် ("**ခွင့်ပြုချက်**")

**၃.၂။ လည်ပတ်ရန်ငှားရမ်းမှု**

အငှားချထားခံရသူသည် ဆေးရုံကို လည်ပတ်ရန်အလို့ငှာ အငှားချထားသူသည် အငှားချထားခံရသူထံ အောက်ပါတို့ကို ခွင့်ပြုပေးပြီး အငှားချထားခံရသူသည် အောက်ပါတို့ကို လက်ခံပါသည်။

**၃.၂.၁။** ငှားရမ်းမည့်မြေကို ကနဦးငှားရမ်းကာလစတင်သည့်နေ့ရက်မှစတင်၍ ကနဦး အနှစ် ၅၀ ကာလ ("**ကနဦးငှားရမ်းကာလ**") အတွက် ငှားရမ်းမှု ("**ငှားရမ်းမှု**")

**၃.၂.၂။** အပိုဒ် ၁၄.၁ ပါ ပြဋ္ဌာန်းချက်များအရ ကနဦးငှားရမ်းကာလကုန်ဆုံးသည့်နေ့အပြီး နောက်တစ်နေ့တွင် အငှားချထားမြေငှားရမ်းမှု နောက်ထပ်တစ်ဆယ် (၁၀) နှစ် သက်တမ်းအတွက် ချက်ချင်းစတင်အကျုံးဝင်မည်ဖြစ်သည်။ ("**ပထမတိုးမြှင့်ငှားရမ်းကာလ**")

**၃.၂.၃။** အပိုဒ် ၁၄.၂ တွင် သတ်မှတ်ပြဋ္ဌာန်းထားမှုများအရ ပထမတိုးမြှင့်ငှားရမ်းကာလ ကုန်ဆုံးပြီး နောက်ထက် ၁၀ နှစ် သက်တမ်းကို ပထမတိုးမြှင့်ငှားရမ်းကာလ ကုန်ဆုံးသည့်နေ့အပြီး နောက်တစ်နေ့တွင် ချက်ချင်းစတင်မည်ဖြစ်သည်။ ("**ဒုတိယတိုးမြှင့်ငှားရမ်းကာလ**")

**၃.၃။** အငှားချထားမြေကိုလွှဲပြောင်းခြင်း

**၃.၃.၁။** အငှားချထားခံရသူသည် ဤသဘောတူစာချုပ် ရပ်စဲ သို့မဟုတ် ကုန်ဆုံးမှု အကျိုးသက်ရောက်သည့်နေ့မှစတင်၍ သုံးလအတွင်း မည်သည့်ထည့်တွက်စဉ်းစားမှုမဆို မရှိစေရဘဲ အငှားချထားမြေကို "ရှိရင်းစွဲ" အတိုင်း အငှားချထားသူထံ လွှဲပြောင်းပေးရမည်။

(၁) အငှားချထားမြေနှင့်အတူ ယင်းပေါ်တွင် အခိုင်အမာတပ်ဆင်ထားသည့် အသုံးအဆောင်ပစ္စည်းများနှင့် အခြားမရွှေ့ပြောင်းနိုင်သော ပစ္စည်းများ၊

(၂) မီးဆိုင်းများ၊ မီးလုံးမီးချောင်းများ၊ မော်နီတာများနှင့် ခွဲစိတ်ခန်းသုံးစားပွဲများစသည်တို့ကဲ့သို့ ခွဲစိတ်ခန်းများတွင် အခိုင်အမာတပ်ဆင်ထားသည့် အသုံးအဆောင်ပစ္စည်းများအပါအဝင် မရွှေ့ပြောင်းနိုင်သော ဆေးဘက်ဆိုင်ရာ ပစ္စည်းကိရိယာများနှင့်

(၃) ခုတင်များ။

၃.၃.၂။ ထပ်လောင်းရှင်းလင်းအပ်သည်မှာ ရွှေ့ပြောင်းနိုင်သော ဆေးဘက်ဆိုင်ရာမဟုတ်သော ပစ္စည်းကိရိယာများနှင့် ဆေးဘက်ဆိုင်ရာ ပစ္စည်းကိရိယာများအားလုံး (အမ်အာရ်အိုင်အထူးဓာတ်မှန်စက်များ (Magnetic Resonance Imaging)၊ စီ-တီစကင်စက်များ (CT Scanner)၊ အာလ်ထွာဆောင်း (Ultrasound) စသည်တို့ကဲ့သို့အပါအဝင်) ကို အခိုင်အမာတပ်ဆင်ထားသည့် အသုံးအဆောင်ပစ္စည်းများဟု မှတ်ယူရမည်မဟုတ်ဘဲ ယင်းပစ္စည်းများကို အပိုဒ် ၃.၃.၁ အရ အငှားချထားသူထံ လွှဲပြောင်းရမည်မဟုတ်ပါ။ စာချုပ်ဝင်များအကြား နှစ်ဦးနှစ်ဖက် သဘောတူညီမှုများအရလည်းကောင်း၊ အကြောင်းအားလျော်စွာ သဘောတူညီ၍ ထည့်တွက်စဉ်းစားမှုများဖြင့်လည်းကောင်း အငှားချထားခံရသူသည် အဆိုပါပစ္စည်းများကို "ရှိရင်းစွဲ" အတိုင်း အငှားချထားသူထံ လွှဲပြောင်းပေးနိုင်သည်။

## ၄။ မြေအသုံးချမှုပရီမီယံနှင့် နှစ်စဉ်ငှားရမ်းခ

၄.၁။ စာချုပ်ဝင်များသည် ဖော်ပြပါတို့ကို သဘောတူညီကြပါသည်။

၄.၁.၁။ ကနဦးငှားရမ်းကာလအတွက် ငှားရမ်းမည့်မြေကို ငှားရမ်းမှုကို ထည့်သွင်းစဉ်းစားရာတွင် မြေအသုံးချမှုပရီမီယံနှင့် နှစ်စဉ်ငှားရမ်းခတို့ ပါဝင်ရမည်။

၄.၁.၂။ အငှားချထားခံရသူသည် ကနဦးငှားရမ်းကာလစတင်သက်ရောက်သည့်နေ့ရက်မတိုင်မီတွင် မြေအသုံးချမှုပရီမီယံမှတစ်ပါး အခြားငှားရမ်းခကိုဖြစ်စေ အပိုဒ် ၃.၁ နှင့်အညီ ခွင့်ပြုပေးသည့် ခွင့်ပြုချက်များနှင့်ဆက်နွှယ်သည့် အခြားငွေပမာဏများကိုဖြစ်စေ ပေးချေမှုမရှိစေရပါ။

၄.၂။ အငှားချထားခံရသူသည် မြေအသုံးချမှုပရီမီယံနှင့် နှစ်စဉ်ငှားရမ်းခတို့ကို အပိုဒ် ၄ ပါ စည်းကမ်းချက်များနှင့်အညီ အငှားချထားသူထံ ပေးချေရန် သဘောတူပါသည်။

၄.၃။ "**မြေအသုံးချမှုပရီမီယံ**" ဟု ဆိုရာတွင်

၄.၃.၁။ အငှားချထားသည့်မြေဧရိယာတွင် ပါဝင်သည့် မြေကေအရေအတွက်ကို တစ်ကေလျှင် အမေရိကန်ဒေါ်လာ ၂,၀၀၀,၀၀၀ (အမေရိကန်ဒေါ်လာ နှစ်သန်း တိတိ) ဖြင့် မြှောက်ခြင်းနှင့် ညီမျှသည့် ပမာဏနှင့်

၄.၃.၂။ မြေအသုံးချမှုပရီမီယံကို အငှားချထားခံရသူသည် အောက်ပါအတိုင်း အငှားချထားသူ၏ ဘဏ်စာရင်းသို့ ပေးချေရမည်ဖြစ်ပြီး အသေးစိတ်အချက်အလက်များ (**သတ်မှတ်ဘဏ်စာရင်းနံပါတ်**) ကို အငှားချထားခံရသူထံ စာဖြင့် ရေးသားပေးရမည်။

(၁) ၃၀% ကို ဤသဘောတူစာချုပ်ချုပ်ဆိုသည့်နေ့ရက်မှသုံးလထက်နောက်ကျခြင်းမရှိဘဲ ပေးချေရမည်။

(၂) ၃၀% ကို အထက်ပါအပိုဒ်၄.၃.၂ (၁)ကိုပေးချေပြီး နှင့် ဤသဘောတူစာချုပ်ချုပ်ဆိုပြီး ၆ လထက်နောက်ကျခြင်းမရှိဘဲ ပေးချေရမည်။

(၃) ၄၀% ကို အထက်ပါအပိုဒ်၄.၃.၂ (၂)ကိုပေးချေပြီး နှင့် ဤသဘောတူစာချုပ်ချုပ်ဆိုပြီး ၄၂ လထက်နောက်ကျခြင်းမရှိဘဲ ပေးချေရမည်။

**၄.၄။ နှစ်စဉ်ငှားရမ်းခ**

**၄.၄.၁။** ကနဦးငှားရမ်းကာလဖြစ်သည့် ပထမငါးနှစ်အတွက် ပေးချေရမည့် နှစ်စဉ်ငှားရမ်းခမှာစုစုပေါင်းကြမ်းခင်းဧရိယာ၏ ၇၅% အပေါ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၈ နှင့်ညီမျှသည့်ပမာဏ ဖြစ်သည်။

**၄.၄.၂။** အငှားချထားခံရသူသည် နှစ်စဉ်ငှားရမ်းခကို

(၁) ကနဦးငှားရမ်းကာလ၏ ပထမသုံးနှစ်တာကာလအတွက် ကနဦးငှားရမ်းကာလ စတင်သက်ရောက်သည့်နေ့ရက်မှစတင်၍ ခြောက်လလျှင်တစ်ကြိမ်ကြိုတင်၍လည်းကောင်း၊

(၂) ကနဦးငှားရမ်းကာလတွင် ကျန်ရှိသည့်ကာလအတွက် ကနဦးငှားရမ်းကာလ စတင်သက်ရောက်သည့်နေ့ရက် သုံးနှစ်ပတ်လည်ပြည့်မြောက်သည့်နေ့မှစတင်၍ နှစ်စဉ်ကြိုတင်၍လည်းကောင်း၊

ပေးချေရမည့်ပမာဏကို သတ်မှတ်ဘဏ်စာရင်းနံပါတ်သို့ ပေးသွင်းရမည်။

**၄.၄. ၃။** နှစ်စဉ်ငှားရမ်းခကို ကနဦးငှားရမ်းကာလ စတင်သက်ရောက်သည့်နေ့ရက် ငါးနှစ်ပြည့်သည့် နှစ်ပတ်လည်နေ့မှစ၍ ငါးနှစ်တာကာလ ကုန်ဆုံးချိန်တိုင်းတွင် စာချုပ်ဝင်များက သဘောတူညီခန့်အပ်သော နိုင်ငံတကာ တစ်သီးပုဂ္ဂလရာဖြတ်ကျွမ်းကျင်ပညာရှင်က သတ်မှတ်ပေးသော ကာလပေါက်ဈေးမြေတန်ဖိုးအတိုင်း ပြန်လည်ပြင်ဆင်ရမည်။ ငါးနှစ်တာကာလတိုင်းအတွက် ပေးချေရမည့် နှစ်စဉ်ငှားရမ်းခ မြေတန်ဖိုးကို တိုးမြှင့်ရာတွင် ယခင်ငါးနှစ်ကာလအတွက် ပေးချေရသည့် နှစ်စဉ်ငှားရမ်းခတန်ဖိုး၏ ၅% ထက်မပိုစေရ။ဤအပိုဒ် ၄.၄.၃အရ ရာဖြတ်တစ်ဦးဦးကို ခန့်အပ်ခြင်းအတွက် ကုန်ကျစရိတ်ကို အငှားချထားခံရသူက ကျခံရမည်။

၄.၄.၄။ အငှားချထားခံရသူသည် အပိုဒ် ၄.၄.၂ တွင် သတ်မှတ်ထားသည့် နေ့ရက်မှစတင်၍ ရက်ပေါင်းသုံးဆယ်အတွင်း နှစ်စဉ်ငှားရမ်းခကိုဖြစ်စေ လစဉ်ငှားရမ်းခကိုဖြစ်စေ (သက်ဆိုင်သည်ဆိုပါက) ပေးချေရန် ပျက်ကွက်ပါက လစဉ်မပေးချေရသေးသည့် ငွေပမာဏပေါ်တွင် တစ်နှစ်လျှင် ၅% နှင့်ညီမျှသော ဒဏ်ကြေးငွေကို အငှားချထားသူထံ ပေးဆောင်ရမည်။

## ၅။ ဆေးရုံတည်ဆောက်ခြင်း

၅.၁။ အငှားချထားခံရသူသည် ဆေးရုံတည်ဆောက်မှုကို ပြီးစီးရန်နှင့် အဆောက်အအုံ ဆောက်လုပ်ပြီးစီးကြောင်းလက်မှတ်ထုတ်ပေးမှုကို ကင်းလွတ်ခွင့်ပြုကာလအတွင်း ရယူနိုင်ရန် ကြိုးပမ်းရမည်။

၅.၂။ အငှားချထားခံရသူ၏ ယူဆချက်အရ ဆေးရုံတည်ဆောက်မှု နှောင့်နှေးနိုင်သည့် အလားအလာ သို့မဟုတ် နှောင့်နှေးနိုင်သည့် အောက်ဖော်ပြပါဖြစ်ရပ်များ ပေါ်ပေါက်ပါက

၅.၂.၁။ အပိုဒ် ၁၂ တွင် ဖော်ပြထားသည့် မလွန်ဆန်နိုင်သောဖြစ်ရပ်။

၅.၂.၂။ အငှားချထားသူကြောင့်ဖြစ်သည့် တားဆီးမှု၊ စာချုပ်ဖောက်ဖျက်မှုနှင့် နှောင့်နှေးကြန့်ကြာမှုစသည့် ဆောင်ရွက်ချက်တစ်ရပ်ရပ်။

၅.၂.၃။ မြန်မာနိုင်ငံရှိ သက်ဆိုင်ရာအာဏာပိုင်များထံမှ လိုအပ်သည့် အစိုးရပိုင်းဆိုင်ရာ၊ စည်းကမ်းထိန်းသိမ်းရေးဆိုင်ရာနှင့်အခြားခွင့်ပြုချက်များနှင့်/သို့မဟုတ် ဆေးရုံတည်ဆောက်ရေးနှင့်ဆက်နွှယ်၍ လိုအပ်သည့် လိုင်စင်များ၊ ခွင့်ပြုမိန့်များနှင့် သဘောတူညီချက်များရရှိရန် ကြန့်ကြာမှု။

၅.၂.၄။ အငှားချထားမြေပေါ်တွင်အဖိုးတန်ကျောက်မျက်များ၊ ဓာတ်သတ္တုများ၊ ရေနံ သို့မဟုတ် ယဉ်ကျေးမှုအမွေအနှစ်များ တွေ့ရှိမှု။

၅.၂.၅။ အငှားချထားခံရသူဘက်မှ ထိုက်သင့်သည့် သတိဝီရိယရှိစေကာမူ အငှားချထားခံရသူက ကိုင်တွယ်ထိန်းချုပ်နိုင်ခြင်းမရှိသည့် ဖြစ်ရပ် သို့မဟုတ် အခြေအနေ။

၅.၂.၆။ စာချုပ်ဝင်များကစာဖြင့်ရေးသားသတ်မှတ်သည့်အခြားအကြောင်းကိစ္စများ။

အငှားချထားခံရသူသည် (မည်သည့်အဖိုးစားနား၊ ထိခိုက်ဆုံးရှုံးမှုများ၊ အခကြေးငွေများ၊ ဒဏ်ကြေးများ ပေးဆောင်ရန်မလိုဘဲ) နှောင့်နှေးကြန့်ကြာသည့် အချိန်ကာလနှင့်ညီမျှသည့် အချိန်ကာလအတိုင်း ကင်းလွတ်ခွင့်ပြုကာလတိုးမြှင့်မှုကို ခံစားခွင့်ရှိသည်။

## ၆။ အငှားချထားသူ၏တာဝန်ဝတ္တရားများ

၆.၁။ အငှားချထားသူသည် စာချုပ်အကျိုးသက်ရောက်သည့်နေ့ရက်မှစတင်၍ အငှားချထားမြေကို အလွတ်အတိုင်း အငှားချထားခံရသူထံ လက်ရောက်ပေးအပ်ရမည်။ အငှားချထားသည့်မြေပေါ်ရှိ မြေပိုင်ဆိုင်မှုနှင့်ပတ်သက်သည့် တတိယပုဂ္ဂိုလ်မှ တောင်းဆိုလာမည့်အမှုဆိုင်ရာဆောင်ရွက်ချက်များ၊ တောင်းဆိုမှုများ၊ လုပ်ဆောင်ချက်များ စသည် တို့ပေါ်ပေါက်လာပါက အငှားချထားသူက တာဝန်ယူဖြေရှင်းပေးရမည်ဖြစ်သည်။

၆.၂။ အငှားချထားသူသည် ၎င်း၏ အငှားချထားမြေပိုင်ဆိုင်ခွင့်ကို ထိန်းသိမ်းရန်အတွက် အစိုးရထံပေးဆောင်ရမည့် မြေခွန်များနှင့်မြေအခွန်အကောက်များကိုသာ ကျခံရမည်။

၆.၃။ အငှားချထားသူသည် အငှားချထားခံရသူကို ပံ့ပိုးပေးရန်အတွက် အောက်ပါဆောင်ရွက်ချက်များတွင် အကောင်းဆုံးကြိုးစားဆောင်ရွက်ပေးရမည်။

၆.၃.၁။ အငှားချထားမြေထံ အပိုဒ် ၃.၁ နှင့်အညီ ဝင်ထွက်သွားလာခွင့်အတွက်လည်းကောင်း၊ အငှားချထားမြေကို ကနဦးငှားရမ်းကာလနှင့် တိုးမြှင့်ငှားရမ်းကာလတစ်ရပ်ရပ်အတွက် ငှားရမ်းမှုအတွက်လည်းကောင်း မြန်မာနိုင်ငံရှိ သက်ဆိုင်ရာအာဏာပိုင်များ သို့မဟုတ် အဖွဲ့များထံမှ (သက်ဆိုင်သည့်ကိစ္စရပ်များတွင် MIC ခွင့်ပြုချက်များအပါအဝင်) လိုအပ်သည့် ခွင့်ပြုချက်များ၊ လိုင်စင်များနှင့် ခွင့်ပြုမိန့်များအားလုံး ရရှိစေမှု။

၆.၃.၂။ စီမံကိန်းတွင် အသုံးပြုမည့် စက်ပစ္စည်းကိရိယာများ၊ စက်ယန္တရားများနှင့် အပိုပစ္စည်းများ တင်သွင်းလာမှုနှင့်စပ်လျဉ်း၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ (၂၀၁၂) နှင့်အညီ အငှားချထားခံရသူရရှိနိုင်သည့် အခွန်ကင်းလွတ်ခွင့်များ၊ အခွန်လျှော့ပေါ့သက်သာခွင့်များ ရရှိနိုင်မှု။

၆.၄။ အငှားချထားသူသည် အငှားချထားခံရသူထံ အောက်ပါတို့ကိုကတိကဝတ်ပြုပါသည်။

၆.၄.၁။ အငှားချထားသူ သို့မဟုတ် အငှားချထားသူ၏အောက်မှဖြစ်စေ အငှားချထားသူကိုယ်စားဖြစ်စေ ဥပဒေကြောင်းအရ တောင်းဆိုပိုင်ခွင့်ရှိသူ မည်သူမဆိုထံမှ မည်သည့်အနှောင့်အယှက်၊ အတားအဆီးများ မည်သည့်နည်းနှင့်မျှမရှိစေရဘဲ အငှားချထားခံရသူသည် ကင်းလွတ်ခွင့်ပြုကာလတွင်လည်းကောင်း၊ကနဦးငှားရမ်းကာလတစ်လျှောက်လုံးတွင်လည်းေ ကာင်း တိုးမြှင့်ငှားရမ်းကာလတစ်ရပ်ရပ်တွင်လည်းကောင်း အငှားချထားမြေကို ဥပဒေနှင့်အညီ ငြိမ်းချမ်းစွာပိုင်ဆိုင်ထားရှိခွင့်၊ အသုံးပြုခွင့်ရှိသည်။

၆.၄.၂။ အငှားချထားသူသည် မြေနှင့်ပတ်သက်၍ ၎င်း၏ပိုင်ဆိုင်ခွင့်နှင့် အကျိုးစီးပွားများကို အခြားသူထံ လွှဲပြောင်းပေးမည်ဆိုပါက ယင်းလွှဲပြောင်းမှုကို ဤသဘောတူစာချုပ်နှင့်အညီ

ဆောင်ရွက်ရမည်။ အငှားချထားသူသည် လွှဲပြောင်းခံရသူထံမှ စာဖြင့်ရေးသားထားသည့် အာမခံကတိပြုမှုကိုရယူပြီး အငှားချထားခံရသူထံ ပေးရမည်ဖြစ်ပြီး စာချုပ်ပါစည်းကမ်းသတ်မှတ်ချက်များ၊ ကတိကဝတ်များ၊ သတ်မှတ်ချက်များနှင့် အခြေအနေများအားလုံးကို လိုက်နာစေရမည်။ သို့သော် ဤသဘောတူစာချုပ်ကို မလိုက်နာမှု၊ မဆောင်ရွက်မှုများ ပေါ်ပေါက်လာပါက ယင်းဖော်ပြချက်တစ်ရပ်ရပ်သည် အငှားချထားသူထံမှ အငှားချထားခံရသူရရှိထားသည့် အခွင့်အရေးများအပေါ် အကျိုးသက်ရောက်ခြင်း၊ ထိခိုက်နစ်နာခြင်း မဖြစ်စေရ။

## ၇။ အငှားချထားခံရသူ၏ တာဝန်ဝတ္တရားများ

၇.၁။ အငှားချထားခံရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ ဆေးရုံတည်ဆောက်မှုကို ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၇.၂။ အငှားချထားခံရသူသည်မြေအသုံးချမှုပရီမီယံ၊ နှစ်စဉ်ငှားရမ်းခနှင့် အခြားပေးချေရမည်များကို ကြန့်ကြာမှုမရှိစေရဘဲ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ ပေးရမည်။.

၇.၃။ အငှားချထားခံရသူသည် အငှားချထားမြေကို ဆေးရုံလည်ပတ်မှုနှင့်ဆက်စပ်၍ အသုံးပြုမှုများအပါအဝင် စီမံကိန်းရည်ရွယ်ချက်အတွက်သာ ဝင်ရောက်၊ အသုံးပြုရမည်။ ဆေးရုံလည်ပတ်မှုကို MIC ခွင့်ပြုမိန့်နှင့် ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာဗဟိုအဖွဲ့မှ ထုတ်ပေးသည့် ဆေးရုံလုပ်ငန်းလိုင်စင်နှင့်အညီ ဆောင်ရွက်ရမည်။

၇.၄။ အငှားချထားခံရသူသည် ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ကျန်းမာရေးလိုအပ်ချက်များအတွက် အသုံးပြုခြင်းကဲ့သို့သော အသုံးပြုခြင်းများအပါအဝင် အငှားချထားမြေကိုအသုံးပြုခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာဥပဒေကို လိုက်နာရမည်။

၇.၅။ အငှားချထားခံရသူသည် ငှားရမ်းထားသည့်အကျိုးခံစားခွင့် တစ်စိတ်တစ်ပိုင်းကို MIC ၏ ခွင့်ပြုချက်ရရှိခြင်းမရှိဘဲ ပေါင်နှံခြင်းမပြုရ။ ထိုသို့ပေါင်နှံခြင်းကို မြန်မာနိုင်ငံ၏ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ (၂၀၁၂) နှင့်အညီ ဆောင်ရွက်ရမည်။ ထပ်လောင်းရှင်းလင်းအပ်သည်မှာ အငှားချထားခံရသူသည် သက်ဆိုင်သောဥပဒေများနှင့်အညီ ဤသဘောတူစာချုပ်ပါ ၎င်း၏အခွင့်အရေးများကို တစ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းခြင်း၊ ပေးအပ်ခြင်းများ ပြုလုပ်နိုင်မည်ဖြစ်ပြီး အငှားချထားခံရသူသည် အငှားချထားသူ၏ ခွင့်ပြုချက်မရဘဲ မည်သည့်ဆေးရုံအစိတ်အပိုင်းကိုမဆို တစ်ဆင့်ငှားရမ်းခြင်း မပြုရပါ။

၇.၆။ အငှားချထားခံရသူသည် ကင်းလွတ်ခွင့်ပြုကာလ၊ ကနဦးငှားရမ်းကာလနှင့် တိုးမြှင့်ငှားရမ်းကာလများအတွင်း အငှားချထားမြေပေါ်တွင် အဖိုးတန်ကျောက်မျက်များ၊ ဓာတ်သတ္တုများ၊

ရေနံ သို့မဟုတ် ယဉ်ကျေးမှုအမွေအနှစ်များကို တွေ့ရှိပါက အငှားချထားသူထံ တတ်နိုင်သမျှ အမြန်ဆုံးအကြောင်းကြားရမည်။

## ၈။ အငှားချထားမြေနှင့်စပ်လျဉ်းသည့်ငွေပေးချေမှုများ

ထပ်လောင်းရှင်းလင်းအပ်သည်မှာ အောက်ပါ အငှားချထားမြေနှင့်စပ်လျဉ်းသည့် ငွေပေးချေမှုများကို သက်ဆိုင်ရာစာချုပ်ဝင်က အောက်ဖော်ပြပါအတိုင်း ကျခံရမည်။

**၈.၁။** အငှားချထားခံရသူသည်

**၈.၁.၁။** မြေအသုံးချမှုပရီမီယံနှင့်

**၈.၁.၂။** နှစ်စဉ်ငှားရမ်းခ

အစရှိသည်တို့ကို အပိုဒ် ၄ နှင့်အညီ ပေးချေရန်နှင့်

**၈.၁.၃။** ဤစာချုပ်ချုပ်ဆိုခြင်း သို့မဟုတ် အောက်တွင်ဆောင်ရွက်ဖွယ်ရှိသည့် လုပ်ငန်းကိစ္စများအတွက်ကြောင့် ပေးချေရမည့် သက်ဆိုင်သော တံဆိပ်ခေါင်းခွန်၊ နိုတြီကြေးများနှင့် မှတ်ပုံတင်ခွန်များနှင့် အခွန်အကောက်များ။

**၈.၂။** အငှားချထားသူသည် အပိုဒ် ၆.၂ နှင့်အညီ ၎င်း၏ အငှားချထားမြေပိုင်ဆိုင်ခွင့်ကို ထိန်းသိမ်းရန်အတွက် အစိုးရထံပေးဆောင်ရမည့် မြေခွန်များနှင့်မြေအခွန်အကောက်များကိုသာ ကျခံရမည်။

## ၉။ လုပ်ငန်းဆောင်ရွက်မှုအာမခံချက်

အငှားချထားခံရသူသည် စုစုပေါင်းကြမ်းခင်းဧရိယာ၏ ၇၅% ရှိ တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၄.၅ နှင့်ညီမျှသည့်ပမာဏကို **[ဘဏ်ကိုဖော်ပြပါ]** ဘဏ်အာမခံ အဖြစ်စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ နှစ်လအတွင်း အငှားချထားသူထံ ပေးအပ်ရမည်။ ("လုပ်ငန်းဆောင်ရွက်မှုအာမခံချက်") လုပ်ငန်းဆောင်ရွက်မှုအာမခံချက်သည် ခြောက်နှစ်တာကာလအထိ အကျုံးဝင်သက်ရောက်မှုရှိစေရမည်ဖြစ်ပြီး အငှားချထားခံရသူ၏ ဆေးရုံတည်ဆောက်ရန် တာဝန်အတွက် အာမခံဖြစ်စေရမည်။

## ၁၀။ ပြန်လည်ဝင်ရောက်ပိုင်ခွင့်

အငှားချထားခံရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များကို ဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊ ထိုသို့ပျက်ကွက်မှုအတွက် အငှားချထားသူထံမှ စာဖြင့်ရေးသားထားသည့် အကြောင်းကြားစာကို ရရှိအပြီး ခြောက်လ အတွင်း မဆောင်ရွက်မှု သို့မဟုတ် မလိုက်နာမှုကို ပြန်လည်ကုစားခြင်းမရှိလျှင် အငှားချထားသူသည် အငှားချထားမြေပေါ်သို့ ပြန်လည်ဝင်ရောက်၍

ရယူပိုင်ခွင့်ရှိစေရမည်ဖြစ်ပြီး ဤသဘောတူစာချုပ်သည်လည်း ရပ်စဲ၍ဆုံးခန်းတိုင်ရမည်။ ထိုသို့ဝင်ရောက်ရယူရာတွင် (က) စာချုပ်အကျိုးသက်ရောက်သည့်နေ့ရက်မှစ၍ ခြောက်နှစ်အတွင်း ဖွင့်လှစ်သည့်နေ့ရက် မဖြစ်ပေါ်လာပါက ဆေးရုံတည်ဆောက်မှုပြီးဆုံးရန် ကြန့်ကြာမှုသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို ဆောင်ရွက်၊ လိုက်နာရန် အငှားချထားခံရသူ၏ ပျက်ကွက်မှုဟု မမှတ်ယူစေရ (ခ) ထိုသို့ပြန်လည်ဝင်ရောက်သည့်ကိစ္စတွင် အငှားချထားခံရသူထံမှ အငှားချထားသူရရှိမည့် ငှားရမ်းခငွေများ၊ ပျက်ဆီးဆုံးရှုံးမှုများအတွက် လျော်ကြေးပေးအပ်မှုများမှ ကင်းလွတ်ခြင်း မရှိစေရ။

## ၁၁။ ပတ်ဝန်းကျင်နှင့် တွင်းထွက်ဓာတ်သတ္တုသယံဇာတများ ကာကွယ်စောင့်ရှောက်မှု

၁၁.၁။ အငှားချထားခံရသူသည် အငှားချထားသောမြေ၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် စီမံကိန်းနှင့်စပ်လျဉ်း၍ အသုံးပြုရမည့် ရေဆိုးစွန့်ပစ်မှုကိုင်တွယ်ထိန်းသိမ်းမှုဆိုင်ရာ ပစ္စည်းပစ္စယများနှင့် အခြားစွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုဆိုင်ရာ ပစ္စည်းပစ္စယများ တပ်ဆင်ခြင်းစသည့် ထိုက်သင့်သောကြိုးပမ်းမှုများ ဆောင်ရွက်ခြင်းတို့ကဲ့သို့အပါအဝင် မြန်မာနိုင်ငံ တည်ဆဲဥပဒေများနှင့် စည်းမျဉ်းများကို လိုက်နာရမည်။

၁၁.၂။ အငှားချထားသောမြေပေါ်တွင် တည်ရှိသည့် အဖိုးတန်ကျောက်မျက်များ၊ တွင်းထွက်ပစ္စည်းဓာတ်သတ္တုများ၊ ရေနံ သို့မဟုတ် ယဉ်ကျေးမှုအမွေအနှစ်များအားလုံးကို မြန်မာနိုင်ငံအစိုးရက ပိုင်ဆိုင်ပြီး အငှားချထားမြေပေါ်မှ အဆိုပါ ရှာဖွေတွေ့ရှိမှုများကို အငှားချထားခံရသူထံ ရက်ပေါင်း ၆၀ ကြိုတင်အကြောင်းကြားစာ ပေးပို့ခြင်းဖြင့် မြန်မာနိုင်ငံ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းများနှင့်အညီ တူးဖော်ခွင့်ပေးနိုင်သည်။ အဆိုပါ တူးဖော်ရေးလုပ်ငန်းစဉ်များသည် အငှားချထားခံရသူအနေဖြင့် အငှားချထားမြေကို အသုံးပြုမှုနှင့် ခံစားခွင့်တို့ကို နှောင့်ယှက်ခြင်းမရှိစေရပါ။

၁၁.၃။ အငှားချထားသူသည် အငှားချထားခံရသူ၏ အပိုဒ် ၁၁.၂ ပါ ကိစ္စရပ်များကို ဆောင်ရွက်ခြင်းကြောင့် အငှားချထားခံရသူက တိုက်ရိုက်ဖြစ်စေ သွယ်ဝိုက်၍ဖြစ်စေ ထိခိုက်နစ်နာ ကျသင့်ထားသည့် အမှန်တကယ် ဆုံးရှုံးမှုများ၊ နစ်နာမှုများနှင့် ကုန်ကျစရိတ်များ (ဖွင့်လှစ်သည့်နေ့ရက်ကြန့်ကြာမှုကြောင့် အကျိုးစီးပွား နစ်နာဆုံးရှုံးမှုများ သို့မဟုတ် ဆေးရုံလည်ပတ်မှုများကို ဆိုင်းငံ့ခြင်း သို့မဟုတ် အနှောင့်အယှက်ပေးခြင်း စသည်ကဲ့သို့ ကိစ္စရပ်များအပါအဝင်) ကို ပြန်လည်စိုက်ထုတ်ပေးရမည်။

## ၁၂။ မလွန်ဆန်နိုင်သောဖြစ်ရပ်

စာချုပ်ဝင်တစ်ဖက်ဖက်သည် ၎င်းတို့၏ တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် အတားအဆီးများ ပေါ်ပေါက်ပါက ထိခိုက်ခံရသည့် စာချုပ်ဝင်သည် အခြားစာချုပ်ဝင်ထံ စာဖြင့်ရေးသားအကြောင်းကြားခြင်းဖြင့် မလွန်ဆန်နိုင်သောဖြစ်ရပ်

ဆက်လက်ပေါ်ပေါက်နေသရွေ့ ထိုသို့ဆောင်ရွက်မှုကို တားဆီးထားသည့် အခြေအနေအတိုင်းအတာတစ်ရပ်အထိ ဆိုင်းငံ့ထားရမည်။ သို့ရာတွင် ဤသဘောတူစာချုပ်အရ မလွန်ဆန်နိုင်သောဖြစ်ရပ် သတ်မှတ်ပေးရန် တောင်းဆိုသည့် စာချုပ်ဝင်သည် မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ကြောင်း အကြောင်းကြားစာကို အခြားစာချုပ်ဝင်ထံ ပေးပို့ခြင်းမပြုပါက မလွန်ဆန်နိုင်သောဖြစ်ရပ်ကို အသိအမှတ်မပြုစေရ။ အဆိုပါအကြောင်းကြားစာတွင် မလွန်ဆန်နိုင်သောဖြစ်ရပ် သဘောသဘာဝ၏ အသေးစိတ်ဖြစ်ရပ်များ၊ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် သက်ရောက်မှုရှိသည့် တာဝန်ဝတ္တရားများ၊ ယင်းတာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် မလွန်ဆန်နိုင်သောဖြစ်ရပ်၏ ထိခိုက်မှုတို့ကို အထိုက်အလျောက် ရေးသားဖော်ပြထားရမည်။

## ၁၃။ စာချုပ်ရပ်စဲခြင်း

**၁၃.၁။** ဤသဘောတူစာချုပ်သည် စာချုပ်ဝင်များ၏ တာဝန်ဝတ္တရားများကို လွှမ်းမိုးထားရမည်ဖြစ်ပြီး စာချုပ်ဝင်များက နှစ်ဦးနှစ်ဖက် စာဖြင့်သဘောတူရပ်စဲပြီး MIC ခွင့်ပြုချက်ကို ရရှိသည့် အချိန်အထိလည်းကောင်း၊ ဤသဘောတူစာချုပ်အရ စာချုပ်ဝင်အသီးသီး၏ တာဝန်ဝတ္တရားများအားလုံးကို အပြည့်အဝ ဆောင်ရွက်ပြီးစီးသည့်အချိန်အထိလည်းကောင်း အပြည့်အဝ ဆက်လက်အကျိုးသက်ရောက်မှုရှိသည်ဟု မှတ်ယူရမည်။

**၁၃.၂။** MIC ခွင့်ပြုချက်အရ ဤသဘောတူစာချုပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က အခြားစာချုပ်ဝင်ထံ ရက်ပေါင်း ၃၀ ကြိုတင်အကြောင်းကြားစာ ပေးပို့ခြင်းဖြင့်လည်းကောင်း အောက်ပါဖြစ်ရပ်များ ပေါ်ပေါက်သည့်အခါတွင်လည်းကောင်း ရပ်စဲနိုင်သည်။

**၁၃.၂.၁။** ဤသဘောတူစာချုပ်ကို ကြီးကြီးမားမားဖောက်ဖျက်ထားသည့် အခြားစာချုပ်ဝင် ("**ပျက်ကွက်စာချုပ်ဝင်**") ထံ မပျက်ကွက်သည့်စာချုပ်ဝင်က ဖောက်ဖျက်မှုကို စာဖြင့်အကြောင်းကြားပြီးသည့်နောက် ခြောက်လအတွင်း ယင်းဖောက်ဖျက်မှုကို ပြန်လည်ကုစားရန် ပျက်ကွက်လျှင် စာချုပ်ဝင်တစ်ရပ်ရပ် ("**မပျက်ကွက်သည့်စာချုပ်ဝင်**") က ရပ်စဲနိုင်သည်။ ထိုသို့ဆိုရာတွင် အငှားချထားခံရသူ၏ ဆေးရုံတည်ဆောက်ရေးပြီးဆုံးမှု ကြန့်ကြာခြင်းသည် ဤသဘောတူစာချုပ်ကို ကြီးကြီးမားမားဖောက်ဖျက်သည်ဟု မယူဆစေရပါ။

**၁၃.၂.၂။** ကျိုးကြောင်းဆီလျော်သည်ဟု အငှားချထားခံရသူက ယူဆသည့် အောက်ပါအချက်များကြောင့် ရပ်စဲနိုင်သည်။

(၁) ၃နှစ်ထက်ကျော်လွန်သော ကာလတစ်လျှောက် ဆက်တိုက်ဆုံးရှုံးမှုအများအပြား ပေါ်ပေါက်ခြင်း သို့မဟုတ်

(၂) စီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရန် မစွမ်းဆောင်နိုင်တော့ခြင်း။

**၁၃.၂.၃။** မလွန်ဆန်နိုင်သောဖြစ်ရပ်သည် ခြောက်လထက်ပို၍ ဆက်တိုက်ပေါ်ပေါက်ခြင်းကြောင့် စာချုပ်ဝင်တစ်ဖက်ဖက်က ရပ်စဲနိုင်သည်။

**၁၃.၃။** (အပိုဒ် ၁၄နှင့်အညီ ငှားရမ်းကာလတိုးမြှင့်မှု အကြောင်းကြားစာတစ်ရပ်ရပ်ကို အငှားချထားခံရသူက မပေးပို့ပါက) ကနဦးငှားရမ်းကာလကုန်ဆုံးအပြီးတွင်ဖြစ်စေ (အပိုဒ် ၁၄နှင့်အညီ ငှားရမ်းကာလတိုးမြှင့်မှု အကြောင်းကြားစာတစ်ရပ်ရပ်ကို အငှားချထားခံရသူက ပေးပို့ပါက) နောက်ဆုံးတိုးမြှင့်ငှားရမ်းကာလအပြီးတွင်ဖြစ်စေ ဤသဘောတူစာချုပ်ကို အပိုဒ် ၁၃နှင့်အညီ အငှားချထားခံရသူက ရပ်စဲလျှင်ဖြစ်စေ အငှားချထားခံရသူသည် အပိုဒ် ၃.၃.၁ ပါ ၎င်း၏ တာဝန်ဝတ္တရားများအရ ၎င်း၏ ပရိဘောဂများ၊ ပစ္စည်းကိရိယာများ၊ ကုန်ပစ္စည်းများ၊ ကုန်စည်များ၊ ရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများ၊ ဆိုင်းဘုတ်များ၊ လိုဂိုများနှင့် ကုန်အမှတ်တံဆိပ်များကို အငှားချထားမြေပေါ်မှ မိမိ၏ကုန်ကျစရိတ်ဖြင့် ဖယ်ရှားရမည်ဖြစ်ပြီး ထိုသို့ဆောင်ရွက်ရန်အတွက် အငှားချထားခံရသူသည် သင့်တင်သောအချိန်များတွင် အငှားချထားမြေထံသို့ ထိုက်သင့်သော ဝင်ထွက်သွားလာမှုကို အငှားချထားသူက ခွင့်ပြုပံ့ပိုးပေးရမည်။

## ၁၄။ တိုးမြှင့်ငှားရမ်းကာလများ

### ၁၄.၁။ ပထမတိုးမြှင့်ငှားရမ်းကာလ

အငှားချထားခံရသူသည် အငှားချထားသူထံ ကနဦးငှားရမ်းကာလကုန်ဆုံးသည့်နေ့မတိုင်မီ ၁၂ လ ထက် မနည်းစေဘဲ သက်တမ်းတိုးရန် စာဖြင့်ရေးသားအသိပေးပါလျှင် MIC အတည်ပြုချက်ရရှိမှုအပေါ် မူတည်ပြီး စာချုပ်ဂင်များ၏ ကနဦးငှားရမ်းကာလသတ်မှတ်မှုသည် အငှားချထားမြေ ပထမတိုးမြှင့်ငှားရမ်းကာလငှားရမ်းမှုအတွင်းသို့ ဤသဘောတူစာချုပ်တွင် ဖော်ပြထားသည့် စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ အကျုံးဂင်သွားပြီဟု မှတ်ယူရမည်ဖြစ်ပြီး ဤတွင် ပထမတိုးမြှင့်ငှားရမ်းကာလဆိုင်ရာ ကျင့်သုံးဆောင်ရွက်မှုကို ချင်းချက်ထားရမည်။

**၁၄.၁.၁။** ပထမတိုးမြှင့်ငှားရမ်းကာလနှင့်စပ်လျဉ်း၍ ဆေးရုံတည်ဆောက်ရေးအတွက် ကင်းလွတ်ခွင့်ပြုကာလ မရှိစေရပါ။ "ကနဦးငှားရမ်းကာလ စတင်သက်ရောက်သည့်နေ့ရက်" ဆိုသည်မှာလည်း ပထမတိုးမြှင့်ငှားရမ်းကာလ၏ပထမနေ့ရက်ကို ဆိုလိုရမည်။

**၁၄.၁.၂။** ပထမတိုးမြှင့်ငှားရမ်းကာလသည် ပထမတိုးမြှင့်ငှားရမ်းကာလ စတင်သည့်နေ့ရက်မှစ၍ ၁၀ နှစ်တာကာလဖြစ်သည်။

**၁၄.၁.၃။** ကနဦးငှားရမ်းကာလအပြီးနှင့် တိုးမြှင့်ငှားရမ်းကာလများနှင့်စပ်လျဉ်းပြီး အငှားချထားခံရသူက အငှားချထားသူထံ မြေအသုံးချမှုပရီမီယံ ပေးချေရန် မရှိစေရ၊

ပထမတိုးမြှင့်ငှားရမ်းကာလအတွက် အငှားချထားမြေကို ငှားရမ်းမှုကို ထည့်သွင်းတွက်ချက်ရာတွင် နှစ်စဉ်ငှားရမ်းခသာလျှင် ပါဝင်စေရမည်။

**၁၄.၁.၄။** ပထမတိုးမြှင့်ငှားရမ်းကာလအတွက် အငှားချထားမြေငှားရမ်းမှုနှင့်စပ်လျဉ်းသော နှစ်စဉ်ငှားရမ်းခကို

(၁) အပိုဒ် ၄.၄.၃တွင် ဖော်ပြထားချက်အရ ဆုံးဖြတ်သတ်မှတ်မည့် ကာလပေါက်ဈေး မြေငှားရမ်းတန်ဖိုးနှင့်အညီ တွက်ချက်မည်ဖြစ်ဖြစ်ပြီး ဤနေရာတွင် ပထမတိုးမြှင့်ငှားရမ်းကာလအတွက် နှစ်အလိုက်ငှားရမ်းခသည် ကနဦးငှားရမ်းကာလ နောက်ဆုံးနှစ်တွင် သတ်မှတ်ခဲ့သော နှစ်အလိုက်ငှားရမ်းခ၏ ၁၀ ရာခိုင်နှုန်းထက် ပိုလွန်ခြင်းမရှိစေရ။

(၂) ပထမတိုးမြှင့်ငှားရမ်းကာလ၏ ပထမဆုံးနေ့ရက်မှစတင်၍ ပေးချေရမည့်ပမာဏကို သတ်မှတ်ထားသည့် ဘဏ်စာရင်းနံပါတ်သို့ ထည့်သွင်းခြင်းအားဖြင့် နှစ်စဉ် ကြိုတင်ပေးချေရမည်။

**၁၄.၁.၅။** အငှားချထားခံရသူသည် ပထမတိုးမြှင့်ငှားရမ်းကာလကုန်ဆုံးချိန်တွင် အပိုဒ် ၁၄.၂ ပါ သတ်မှတ်ပြဋ္ဌာန်းချက်များနှင့်အညီ နောက်ထပ် ၁၀ နှစ် သက်တမ်း ခွင့်ပြုမှုရရှိခွင့်ရှိသည်။

## ၁၄.၂။ ဒုတိယတိုးမြှင့်ငှားရမ်းကာလ

အငှားချထားခြင်းခံရသူက အငှားချထားသူထံ ပထမတိုးမြှင့်ငှားရမ်းကာလ ကုန်ဆုံးသည့်နေ့မတိုင်မီ ၁၂ လထက် မနည်းစေဘဲ သက်တမ်းတိုးရန် စာဖြင့်ရေးသားအသိပေးပါလျှင် MIC အတည်ပြုချက်ရရှိမှုအပေါ် မူတည်ပြီး စာချုပ်ဝင်များ၏ ပထမတိုးမြှင့်ငှားရမ်းကာလသတ်မှတ်မှုသည် အငှားချထားမြေကို ဒုတိယတိုးမြှင့်ငှားရမ်းကာလငှားရမ်းမှုအတွင်းသို့ ဤသဘောတူစာချုပ်တွင် ဖော်ပြထားသည့် စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ အကျုံးဝင်သွားပြီဟု မှတ်ယူရမည်ဖြစ်ပြီး ဤတွင် ဒုတိယတိုးမြှင့်ငှားရမ်းကာလနှင့်သက်ဆိုင်သော ကျင့်သုံးဆောင်ရွက်မှုကို ချွင်းချက်ထားရမည်။

**၁၄.၂.၁။** ဒုတိယတိုးမြှင့်ငှားရမ်းကာလနှင့်စပ်လျဉ်း၍ ဆေးရုံတည်ဆောက်ရေးအတွက် ကင်းလွတ်ခွင့်ပြုကာလ မရှိစေရပါ။ "ကနဦးငှားရမ်းကာလ စတင်သက်ရောက်သည့်နေ့ရက်" ဆိုသည်မှာလည်း ဒုတိယတိုးမြှင့်ငှားရမ်းကာလ၏ပထမနေ့ရက်ကို ဆိုလိုရမည်။

**၁၄.၂.၂။** ဒုတိယတိုးမြှင့်ငှားရမ်းကာလသည် ဒုတိယတိုးမြှင့်ငှားရမ်းကာလ စတင်သည့်နေ့ရက်မှစ၍ ၁၀ နှစ်တာကာလဖြစ်သည်။

**၁၄.၂.၃။** ကနဦးငှားရမ်းကာလအပြီးနှင့် တိုးမြှင့်ငှားရမ်းကာလများနှင့်စပ်လျဉ်းပြီး အငှားချထားခံရသူက အငှားချထားသူထံ မြေအသုံးချမှုပရီမီယံ ပေးချေရန်မရှိစေရ။

ဒုတိယတိုးမြှင့်ငှားရမ်းကာလအတွက် အငှားချထားမြေငှားရမ်းမှုကို ထည့်သွင်းတွက်ချက်ရာတွင် နှစ်စဉ်ငှားရမ်းခသာလျှင် ပါဝင်စေရမည်။

၁၄.၂.၄။ ဒုတိယတိုးမြှင့်ငှားရမ်းကာလအတွက် အငှားချထားမြေငှားရမ်းမှုနှင့်စပ်လျဉ်းသော နှစ်အလိုက်ပေးဆောင်ရမည့် ငှားရမ်းခကို

(၁) အပိုဒ် ၄.၄.၃တွင် ဖော်ပြထားချက်အရ ဆုံးဖြတ်သတ်မှတ်မည့် ကာလပေါက်ဈေးမြေငှားရမ်းတန်ဖိုးနှင့်အညီ တွက်ချက်မည်ဖြစ်ဖြစ်ပြီး ဤနေရာတွင် ဒုတိယတိုးမြှင့်ငှားရမ်းကာလအတွက် နှစ်အလိုက်ငှားရမ်းခသည် ပထမတိုးမြှင့်ငှားရမ်းကာလ နောက်ဆုံးနှစ်တွင် သတ်မှတ်ခဲ့သော နှစ်အလိုက်ငှားရမ်းခကို ၁၀ ရာခိုင်နှုန်းထက် ပိုလွန်ခြင်း မရှိစေရ။

(၂) ဒုတိယတိုးမြှင့်ငှားရမ်းကာလ၏ ပထမဆုံးနေ့ရက်မှစတင်၍ ပေးချေရမည့်ပမာဏကို သတ်မှတ်ထားသည့် ဘဏ်စာရင်းနံပါတ်သို့ ထည့်သွင်းခြင်းအားဖြင့် နှစ်စဉ် ကြိုတင်ပေးချေရမည်။

၁၄.၂.၅။ အပိုဒ် ၁၄ကို ဖယ်ထုတ်ထားရမည်။

## ၁၅။ အလုံးစုံသဘောတူညီချက်

ဤသဘောတူစာချုပ်သည် စာချုပ်ဝင်များအကြား အလုံးစုံသဘောတူညီချက်ဖြစ်သည်။ ကိုယ်စားပြုမှုတစ်ရပ်ရပ်အပေါ် အမှီပြုထားမှုမရှိခြင်း၊ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုး ချုပ်ဆိုရာတွင် မည်သူတစ်ဦးတစ်ယောက်၏ တိုက်တွန်းဆွဲဆောင်မှုမပါဘဲ ချုပ်ဆိုခြင်းဖြစ်ကြောင်းတို့ကို စာချုပ်ဝင်အသီးသီးက အတည်ပြုပါသည်။

## ၁၆။ ဖြည့်စွက်ပြင်ဆင်ချက်များနှင့် ပြန်လည်ညှိနှိုင်းမှု

၁၆.၁။ စာချုပ်အကျိုးသက်ရောက်သည့်နေ့ရက်တွင်ဖြစ်စေ ယင်းနေ့ရက်ပြီးနောက်တွင်ဖြစ်စေ နှစ်ဖက်စာချုပ်ဝင်များ၏ တရားဝင်လက်မှတ်ရေးထိုးခြင်းများဖြင့် စာဖြင့်ရေးသား အတည်ပြုခြင်းမှတစ်ပါး စာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များကို အပြောင်းအလဲပြုလုပ်ခြင်းသည် တရားဝင်မှု မဖြစ်စေရ။

၁၆.၂။ ဤသဘောတူစာချုပ်တွင် မြန်မာနိုင်ငံ ဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းများ၊ အမိန့်ကြော်ငြာစာများ သို့မဟုတ် မူဝါဒအပြောင်းအလဲများစသည်တို့ကဲ့သို့ဖြစ်ရပ်များအပါအဝင် မျှော်မှန်းမထားသည့် အခြေအနေများကြောင့် ကိစ္စတစ်ရပ်ရပ် အနေအထားတစ်ရပ်ရပ် ပေါ်ပေါက်ပါက စာချုပ်ဝင်များသည် ဤသဘောတူစာချုပ်ပါ သတ်မှတ်ချက်များကို သဘောရိုးဖြင့် ပြန်လည်ညှိနှိုင်းဆွေးနွေး၍ လိုအပ်သည့် ဖြည့်စွက်ပြင်ဆင်ချက်များ ပြုလုပ်ရမည်။

## ၁၇။ အကြောင်းကြားခြင်း

၁၇.၁။ ဤသဘောတူစာချုပ်အရ ပေးပို့မည့် သို့မဟုတ် ပြုလုပ်မည့် အကြောင်းကြားခြင်းများအားလုံးကိုဖြစ်စေ အခြားဆက်သွယ်ဆောင်ရွက်မှုများအားလုံးကိုဖြစ်စေ အင်္ဂလိပ်ဘာသာဖြင့် ရေးသား၍ ဤသဘောတူစာချုပ်ပါ ရည်ရွယ်ချက်များအတွက် စာချုပ်ဝင်တစ်ဖက်က အခြားစာချုပ်ဝင်ထံသို့ ပေးပို့ရန်အတွက် လျာထားသတ်မှတ်သည့် ပေးပို့လိုသူထံ (ရှိပါက) လိပ်မူ၍ လက်ခံမည့်သူ၏ လိပ်စာ သို့မဟုတ် အီးမေးလ်လိပ်စာသို့ လူကိုယ်တိုင်ဖြစ်စေ အပြည်ပြည်ဆိုင်ရာစာပို့စနစ်ဖြင့်ဖြစ်စေ အီးမေးလ်ဖြင့်ဖြစ်စေ ပေးပို့ရမည်။ စာချုပ်ဝင်များက လျာထားသတ်မှတ်ထားသည့် ပေးပို့ရမည့်သူ၏ ကနဦးလိပ်စာနှင့် အမည်တို့ကို အောက်တွင်ဖော်ပြအပ်ပါသည်။

**အငှားချထားသူထံသို့**

လိပ်စာ : [•]

အီးမေးလ်လိပ်စာ : [•]

လိပ်မူသူ : [•]

**အငှားချထားခံရသူထံသို့**

လိပ်စာ : [•]

အီးမေးလ်လိပ်စာ : [•]

လိပ်မူသူ : [•]

၁၇.၂။ အောက်ဖော်ပြပါတို့ဖြင့် အဆိုပါအကြောင်းကြားမှု သို့မဟုတ် ဆက်သွယ်ဆောင်ရွက်မှုသည် သင့်တင်လျောက်ပတ်စွာ ဆောင်ရွက်ပြီးစီးပြီဖြစ်ကြောင်း မှတ်ယူရမည်။

၁၇.၂.၁။ စာဖြင့်ပေးပို့ပြီးခြင်းဖြစ်ပါက လူကြုံပေးပို့ခြင်းဖြစ်လျှင် ပေးပို့ပြီးသည်နှင့်တပြိုင်နက် သို့မဟုတ် အပြည်ပြည်ဆိုင်ရာစာပို့စနစ်ဖြင့် ပေးပို့ခြင်းဖြစ်လျှင် ပေးပို့ပြီးနောက် ရုံးဖွင့်ရက် သုံးရက်မြောက်နေ့။ အပြည်ပြည်ဆိုင်ရာစာပို့ဝန်ဆောင်မှုထံမှ ပေးပို့ရမည့် လိပ်စာထံသို့ မည်သည့်နေ့ရက်တွင် ပေးပို့ပြီးဖြစ်ကြောင်း ပြေစာဖြင့် သက်သေအလုံအလောက် ပြနိုင်သည်။

၁၇.၂.၂။ အီးမေးလ်ဖြင့် ပေးပို့ခြင်းဖြစ်ပါက ပေးပို့ပြီးသည်နှင့်တပြိုင်နက်

(၁) ပေးပို့သူသည် အီးမေးလ်ပို့လွှတ်ပြီးစီးကြောင်း အလိုအလျောက်မက်ဆေ့ချ် (Automated Message) ကို ရရှိသောအခါတွင်ဖြစ်စေ

(၂) ပေးပို့သူသည် အီးမေးလ်ပို့လွှတ်မှု မအောင်မြင်ကြောင်း အလိုအလျောက်မက်ဆေ့ချ် (Automated Message) ကို လက်ခံရရှိသည်မှလွဲ၍ ပေးပို့လိုက်သည့်အချိန် (အီးမေးလ်ပို့လွှတ်လိုက်သည့် စက်တွင် မှတ်တမ်းတင်ထားသည့်အချိန်) အပြီး လေးနာရီအကြာတွင်ဖြစ်စေ

အီးမေးလ်ပို့လွှတ်မှုသည် ရုံးဖွင့်ရက်တွင် ညနေ ၅ နာရီနောက်ပိုင်းတွင် ပို့လွှတ်ခြင်း သို့မဟုတ် ရုံးဖွင့်ရက်မဟုတ်သည့်နေ့တွင် ပို့လွှတ်ခြင်းဖြစ်ပါက ထိုသို့ပို့လွှတ်မှုသည် ထိုနေ့ရက်များအပြီး နောက်တစ်နေ့ ရုံးဖွင့်ရက် မနက် ၉ နာရီအချိန်တွင် ပြီးစီးသည်ဟု မှတ်ယူရမည်။ ရုံးဖွင့်ရက်ဟူသည်မှာ စနေ၊ တနင်္ဂနွေ သို့မဟုတ် မြန်မာနိုင်ငံ၏ အများပြည်သူအားလပ်ရက်ကို ရည်ညွှန်းသည်။

## ၁၈။ တတိယအဖွဲ့များ၏အခွင့်အရေးများ

ဤသဘောတူစာချုပ်တွင် အတိအကျ ဖော်ပြထားသည်နှင့်အညီ ဤသဘောတူစာချုပ်၏ စာချုပ်ဝင်မဟုတ်သူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များ၏ အကျိုးခံစားမှုအရပ်ရပ်ကို ခံစားခွင့် သို့မဟုတ် သက်ရောက်မှုရှိခွင့်တို့ မရှိစေရပါ။

## ၁၉။ မူပွားများ

ဤသဘောတူစာချုပ်ကို မူပွားအရေအတွက်မည်မျှမဆို ပြုလုပ်ချုပ်ဆိုနိုင်ပြီး ယင်းမူပွားများအားလုံးကို အလားတူစာချုပ်တစ်ရပ်တည်းအဖြစ် မှတ်ယူရမည်။ မည်သည့်စာချုပ်ဝင်မဆိုသည် ယင်းမူပွားတစ်စောင်ကို လက်မှတ်ရေးထိုးခြင်းဖြင့် ဤသဘောတူစာချုပ်ကို ချုပ်ဆိုပြီးဖြစ်သည်။

## ၂၀။ ဘာသာစကား

ဤသဘောတူစာချုပ်ကို အင်္ဂလိပ်ဘာသာဖြင့်လည်းကောင်း မြန်မာဘာသာဖြင့်လည်းကောင်း ပြုလုပ်ရေးသားရမည်။ ကွဲလွဲမှုများရှိပါက မြန်မာဘာသာက လွှမ်းမိုးစေရမည်။

## ၂၁။ လွှမ်းမိုးဥပဒေ

ဤသဘောတူစာချုပ်ကိုမြန်မာနိုင်ငံဥပဒေများနှင့်အညီ လွှမ်းမိုး၍ အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

## ၂၂။ အငြင်းပွားမှုဖြေရှင်းခြင်း

၂၂.၁။ ဤသဘောတူညီချက် တရားဝင်ဖြစ်မှု၊ ဥပဒေအရ တည်ရှိမှု သို့မဟုတ် ရပ်ဆဲခြင်းဆိုင်ရာ အကြောင်းခြင်းရာများအပါအဝင် ဤသဘောတူညီချက်နှင့်စပ်လျဥ်း၍ စာချုပ်ဝင်များအကြား အငြင်းပွားမှု သို့မဟုတ် ကွဲလွဲမှု တစ်စုံတစ်ရာ ပေါ်ပေါက်လျှင်ဖြစ်စေ စာချုပ်နှင့်ဆက်နွယ်သော ကိစ္စရပ်များ ပေါ်ပေါက်လျှင်ဖြစ်စေ ယင်းအငြင်းပွားမှု သို့မဟုတ် ကွဲလွဲမှုတို့ကို အနုညာတခုံရုံးသို့ တင်ပြရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့် ခုံရုံးနှင့် နေရာသည် မြန်မာနိုင်ငံတွင်ဖြစ်ပြီး အနုညာတစီရင်ဆုံးဖြတ်မှုကို အင်္ဂလိပ်ဘာသာဖြင့် ဆောင်ရွက်ရမည်။ အနုညာတခုံရုံးဖြင့် စီရင်ဆုံးဖြတ်ချက်သည် အပြီးသတ်ဖြစ်ပြီး စာချုပ်ဝင်နှစ်ဖက်စလုံးက လိုက်နာရမည်။ အနုညာတခုံရုံးတွင် မြန်မာနိုင်ငံသား သို့မဟုတ် စင်ကာပူသမ္မတနိုင်ငံသားမဟုတ်သည့်ခုံသမာဓိလူကြီး တစ် (၁) ပါး ပါဝင်ရမည်။

၂၂.၂။ ခုံသမာဓိက ဆုံးဖြတ်လိုက်သော အနုညာတစီရင်ဆုံးဖြတ်ချက်ကို အပြီးအပြတ်ဖြစ်ပြီး လိုက်နာရန် တာဝန်ရှိသည်။

၂၂.၃။ ဤသဘောတူစာချုပ်နှင့်စပ်လျဥ်း၍ ထွက်ပေါ်လာသော မည်သည့်အငြင်းပွားမှုအတွက်မဆို ဤအပိုဒ် ၂၂ အရ အနုညာတစီရင်ဆုံးဖြတ်မှုအတည်ဖြစ်အောင် ဆောင်ရွက်ရန်အတွက်မှတစ်ပါး မည်သည့်စာချုပ်ဝင်ကမျှ တရားရုံးတစ်ခုတွင် တရားစွဲဆိုမှုအစပြု သို့မဟုတ် ဆက်လက်တည်မြဲစေခြင်း မပြုစေရဘဲ ဤတွင်အနုညာတစွဲဆိုမှုများ စတင်ဆောင်ရွက်နေစဥ်အတွင်း ကြားဖြတ်သက်သာခွင့်နှင့်စပ်လျဥ်း၍ ချွင်းချက်ထားရမည်။

၂၂.၄။ အနုညာတစီရင်ဆုံးဖြတ်ပေးပါရန် လျှောက်ထားသည့် ကာလအတွင်းနှင့် ယင်းနောက်ကာလတွင် အနုညာတစီရင်ဆုံးဖြတ်မှုခွင့်ပြုခြင်းမတိုင်မီအထိ စာချုပ်ဝင်များသည် စာချုပ်ရပ်ဆဲသည့်ဖြစ်စဥ်မှတစ်ပါး ဆိုခဲ့ပါဆုံးဖြတ်မှုနှင့်အညီ အပြီးသတ်ပြင်ဆင်ညှိနှိုင်းချက်ကို ထိခိုက်နစ်နာမှုမရှိစေရဘဲ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ အငြင်းပွားရာတွင်မပါဝင်သည့် ၎င်းတို့၏ဝတ္တရားများကို ဖြစ်နိုင်သမျှအတိုင်းအတာအထိ ဆက်လက်လိုက်နာ ဆောင်ရွက်ရမည်။

## နောက်ဆက်တွဲဇယား ၁
## အငှားချထားမြေဖော်ပြချက်

လိပ်စာ။ မြေကွက်အမှတ် ၁၈[B] ၊ မြေတိုင်းရပ်ကွက်အမှတ် ၂၈[F] ၊ လမ်းမတော်မြို့နယ် (ပြည်လမ်းနှင့် ဗိုလ်ချုပ်လမ်းထောင့်ရှိ ရန်ကုန်မြို့လယ်ခေါင် စီးပွားရေးအချက်အချာနေရာတွင် တည်ရှိသည်။)

အကျယ်အဝန်း။ ၄.၃ ဧက

[***အငှားချထားမြေ၏ ပန္နက်ပုံကို ထည့်သွင်းပါ။***]

စာချုပ်ဝင်များသည် သက်သေထင်ရှားစိမ့်သောငှာ သဘောတူကြကြောင်း အသိသက်သေများ ရှေ့မှောက်တွင် ဤသဘောတူစာချုပ်ကို အထက်တွင်ဖော်ပြထားသော နေ့ရက်တွင် လက်မှတ်ရေးထိုးကြပါသည်။

**အငှားချထားသူ**

[**လူပုဂ္ဂိုလ်အမည်ထည့်သွင်းပါ**] ကလက်မှတ်ရေးထိုးပါသည်။

**ကျန်းမာရေးဝန်ကြီးဌာန**
**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
ကိုယ်စား

အောက်ပါသက်သေရှေ့မှောက်တွင်

____________________________________

သက်သေလက်မှတ်

အမည် -

လိပ်စာ -

**အငှားချထားခံရသူ**

[**လူပုဂ္ဂိုလ်အမည်ထည့်သွင်းပါ**] ကလက်မှတ်ရေးထိုးပါသည်။

ANDAMAN ALLIANCE HEALTHCARE LIMITED

ကိုယ်စား

အောက်ပါသက်သေရှေ့မှောက်တွင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ကျန်းမာရေးဝန်ကြီးဌာန

## ဝန်ကြီးရုံး

ကျန်းမာရေးဝန်ကြီးဌာန
စာအမှတ်---
ရက်စွဲ--သို့--

စာအမှတ်၊ ၅မက(မ)၂၀၁၅/ ၂၁၈၂၀
ရက်စွဲ၊ ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ(၂၄)ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း။**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ -

၁။ (၁၁-၁၁-၂၀၁၅)ရက်စွဲပါ စာအမှတ်၊ရက- ၅(အ)/၀၁၂/၂၀၁၅(၃၈၂)။

၂။ (၁၆-၁၁-၂၀၁၅)ရက်စွဲပါ စာအမှတ်၊ရက- ၅(အ)/၀၁၂/၂၀၁၅(၃၉၈)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ AMMK Medicare Company Limited မှ ၂၁.၅ % ၊ မြန်မာနိုင်ငံ Global Star Company Limited မှ ၁၆%၊ စင်ကာပူနိုင်ငံ Macondray Holdings Pte. Ltd.မှ ၁၀.၅% နှင့် စင်ကာပူနိုင်ငံ Parkway Healthcare Indo-China Pte. Ltd. မှ ၅၂% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Andaman Alliance Healthcare Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ပြည်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀$^{F}$)၊ မြေကွက်အမှတ်(၁၀)၊ မြေအမျိုးအစား- ပြည်သူ့လုပ်ငန်းဌာနပိုင်မြေ၊ မြေအမည်ပေါက်- ရန်ကုန်နယ်မြေ(ရန်ကုန်ထောင်ကြီး)၊ မြေအကျယ်အဝန်း (၃၇.၅၄၉)ဧကအနက် (၁၁.၁၄၅)ဧက၏ မြေအတိုင်းအတာ (၅)ဧကပေါ်တွင် Parkway Yangon Hospital အမည်ဖြင့် ဆေးရုံတည်ဆောက်ပြီး World Class Multi- Specialty Hospital လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြချက်ကို ရည်ညွှန်းချက်(၁)ပါစာဖြင့် အဆိုပြုချက်ကို လက်ခံပါကြောင်းပြန်ကြားခဲ့ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ အခန်း(၆) အပိုဒ်(၄၃)နှင့် အပိုဒ်(၄၅)ပါပြဋ္ဌာန်းချက်နှင့်အညီ ကျန်းမာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၂)ပါစာဖြင့် တောင်းခံခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်အနောက်ပိုင်းခရိုင်၊ လမ်းမတော်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀$^{F}$)၊ မြေကွက်အမှတ်(၁၀$^{B}$)ရှိ ရန်ကုန်နယ်မြေ(ရန်ကုန်ထောင်ကြီး) အမည်ပေါက် မြေဧရိယာ(၃၆.၈၅၀)ဧကအနက်မှ မြေဧရိယာ(၁၀.၄၄၆)ဧကအား ပြည်ထဲရေးဝန်ကြီးဌာန၏ (၉-၁၁-၂၀၁၅)ရက်စွဲပါအမိန့်ကြော်ငြာစာ(၁၅၃၇/၂၀၁၅)ဖြင့် ကျန်းမာရေးဝန်ကြီးဌာနသို့ လွှဲပြောင်းပေးခဲ့ပါ၍ (၂၅-၁၁-၂၀၁၅)ရက်နေ့တွင်ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ်(၂၃/၂၀၁၅)မှသဘောတူကြောင်း ပြန်ကြားခဲ့ပါသည်။

၃။ ကျန်းမာရေးဝန်ကြီးဌာနသို့ လွှဲပြောင်းပေးသည့် မြေဧရိယာ(၁၀.၄၄၆)ဧကမှ မြေအတိုင်းအတာ(၄.၃)ဧကအား ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု Andaman Alliance Healthcare Limited တည်ထောင်၍ Parkway Yangon Hospital အမည်ဖြင့် To contruct, develop, manage and operate a multispecialty hospital of international standard လုပ်ငန်းအနေဖြင့် နိုင်ငံတကာအဆင့်မီဆေးရုံတစ်ရုံကို ခုတင်(၂၅၀)ဆံ့ဆေးရုံအဖြစ် အဆင့်လိုက်တည်ဆောက်လည်ပတ်သွားရန်နှင့် ပထမအဆင့်တွင် ခုတင်(၁၀၀)ဆံ့ ဆေးရုံဖြင့် စတင်လည်ပတ်ပြီး နောက်အဆင့်များကို တစ်ပြိုင်တည်း ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ အဆိုပြုတင်ပြချက်အပေါ် ကျန်းမာရေးဝန်ကြီးဌာန၏ ဌာနပိုင်မြေအား ငှားရမ်းရေးအတွက် စိစစ်ရေးအဖွဲ့မှ (၁၅-၁၂-၂၀၁၅)ရက်နေ့တွင် နှစ်ဖက်စာချုပ်ဝင်များ အပြီးသတ်ညှိနှိုင်းဆွေးနွေး၍ (၁၆-၁၂-၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ကျန်းမာရေးဝန်ကြီးဌာန၏ လုပ်ငန်းညှိနှိုင်းအစည်းအဝေး အမှတ်စဉ်(၂၀/၂၀၁၅)သို့တင်ပြ၍ ငှားရမ်းနိုင်ရေးအတွက် ဆုံးဖြတ်ခဲ့ပါသည်။

၄။ ၎င်းအပြင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာတင်သွင်းနိုင်ရေးအတွက် ငှားရမ်းခြင်းနှင့် လုပ်ငန်းဆိုင်ရာကိစ္စရပ်များ ဆောင်ရွက်ခွင့်ပြုပါရန် (၁၇-၁၂-၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ်(၂၆/၂၀၁၅)သို့တင်ပြ၍ သဘောတူညီကြောင်း ဆုံးဖြတ်ခဲ့ပြီးဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ သိရှိနိုင်ပါရန်နှင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်ပေးနိုင်ပါရန် ပြန်ကြားအပ်ပါသည်။

ပူးတွဲ- (၁၆)ရွက်နှင့် စာချုပ်(မူကြမ်း) (၁)စုံ

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို-

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထောင်စုရှေ့နေချုပ်ရုံး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ကျန်းမာရေးဝန်ကြီးဌာန

## ဝန်ကြီးရုံး

စာအမှတ်၊ ၁မက(က)၂၀၁၅(၁၂၆)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ (၁၆)ရက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ကျန်းမာရေးဝန်ကြီးဌာနပိုင်မြေအား ငှားရမ်းသုံးစွဲခွင့်ပြုပါရန် တင်ပြသည့်ကိစ္စ**

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်အနောက်ပိုင်းခရိုင်၊ လမ်းမတော်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀F)၊ မြေကွက်အမှတ်(၁၀B)ရှိ ရန်ကုန်နယ်မြေ(ရန်ကုန်ထောင်ကြီး)အမည်ပေါက် မြေဧရိယာ(၃၆.၈၅၀)ဧကအနက်မှ မြေဧရိယာ(၁၀.၄၄၆)ဧကအား ပြည်ထဲရေးဝန်ကြီးဌာန၏ (၉-၁၁-၂၀၁၅)ရက်စွဲပါ အမိန့်ကြော်ငြာစာ(၁၅၃၇/၂၀၁၅)ဖြင့် ကျန်းမာရေးဝန်ကြီးဌာနသို့ လွှဲပြောင်းပေးခဲ့ပါ၍ (၂၅-၁၁-၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၂၃/၂၀၁၅)သို့ တင်ပြရာ သဘောတူကြောင်း ပြန်ကြားခဲ့ပါသည်။

(နောက်ဆက်တွဲ-က)

၂။ ကျန်းမာရေးဝန်ကြီးဌာနသို့ လွှဲပြောင်းပေးသည့်မြေဧရိယာ(၁၀.၄၄၆)ဧကမှ မြေအတိုင်းအတာ(၄.၃)ဧကပေါ်တွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု Andaman Alliance Healthcare Limited တည်ထောင်၍ Parkway Yangon Hospital အမည်ဖြင့် To contruct, develop, manage and operate a multispecialty hospital of international standard လုပ်ငန်းအနေဖြင့် နိုင်ငံတကာအဆင့်မီဆေးရုံတစ်ရုံကို ခုတင်(၂၅၀)ဆံ့ဆေးရုံအဖြစ် အဆင့်လိုက်တည်ဆောက်လည်ပတ်သွားရန်နှင့် ပထမအဆင့်တွင် ခုတင်(၁၀၀)ဆံ့ဆေးရုံဖြင့် စတင်လည်ပတ်ပြီး နောက်အဆင့်များကို တစ်ပြိုင်တည်း ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း မြေငှားစာချုပ်၊ လုပ်ငန်းစီမံချက်တို့နှင့်တကွ ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့တင်ပြခဲ့ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင်ရွက်နိုင်ပါရန် အကြောင်းပြန်ကြားခဲ့သည်။ **(နောက်ဆက်တွဲ-ခ)**

၃။ ၎င်းအပြင် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ မြေငှားရမ်းသုံးစွဲခွင့်ကိစ္စအား သဘောထားမှတ်ချက်တောင်းခံခဲ့ပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် ပြန်ကြားချက်နှင့်တကွ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ညှိနှိုင်းပေးပို့ခဲ့ရာ (၂-၁၁-၂၀၁၅)ရက်နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ

ရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၀/၂၀၁၅)ကြိမ်မြောက်အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု Andaman Alliance Healthcare Limited တည်ထောင်၍ Parkway Yangon Hospital အမည်ဖြင့် World Class Multi- Specialty Hospital လုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုချက်ကို လက်ခံပါကြောင်းပြန်ကြားခဲ့ပါသည်။ **(နောက်ဆက်တွဲ-ဂ)**

၄။ အဆိုပါကိစ္စအား နိုင်ငံတော်သမ္မတရုံးသို့ တင်ပြခဲ့ရာ ခွင့်ပြုပါသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းပြန်ကြားခဲ့ပါသည်။ **(နောက်ဆက်တွဲ-ဃ၊င)**

၅။ ၎င်းအပြင် ကျန်းမာရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီညှိနှိုင်းအစည်းအဝေး အမှတ်စဉ် (၁၉/၂၀၁၅)မှ အဆိုပါမြေ(၄.၃)ဧကအား Parkway Yangon Hospital သို့ ငှားရမ်းခွင့်ပြုရေးအတွက် ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၆။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်အနောက်ပိုင်းခရိုင်၊ လမ်းမတော်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀^F)၊ မြေကွက်အမှတ်(၁၀^B)ရှိ ရန်ကုန်နယ်မြေ(ရန်ကုန်ထောင်ကြီး)အမည်ပေါက် မြေဧရိယာ(၃၆.၈၅၀)ဧကအနက်မှ ကျန်းမာရေးဝန်ကြီးဌာနသို့ လွှဲပြောင်းပေးသည့် မြေဧရိယာ(၁၀.၄၄၆) ဧကမှ မြေအတိုင်းအတာ(၄.၃)ဧကအား မြေငှားရမ်းသုံးစွဲခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြအပ်ပါသည်။

၇။ **ဆုံးဖြတ်ရန်အချက်။** ကျန်းမာရေးဝန်ကြီးဌာနပိုင်မြေအား ငှားရမ်းသုံးစွဲခွင့်ပြုပါရန် သဘောတူ-မတူ။

၈။ **ကျန်းမာရေးဝန်ကြီးဌာန၏ ထောက်ခံချက်။** ထောက်ခံတင်ပြအပ်ပါသည်။

(ဒေါက်တာသန်းအောင်)
ပြည်ထောင်စုဝန်ကြီး

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့**

(နောက်ဆက်တွဲ -က)

၃

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

စာအမှတ်၊ ၆၈ / ၂၅၇ / အဖရ (၂၃/၂၀၁၅)။
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၃ ရက်။

အ မှာ စာ

အကြောင်းအရာ။ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်အနောက်ပိုင်းခရိုင်၊ လမ်းမတော်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀$^{F}$)၊ မြေကွက်အမှတ်(၁၀$^{B}$)ရှိ ရန်ကုန်နယ်မြေ (ရန်ကုန် ထောင်ကြီး)အမည်ပေါက် မြေဧရိယာ(၃၆.၈၅၀)ဧကအနက်မှ မြေဧရိယာ(၁၀.၄၄၆)ဧကအား ဌာနပိုင်အမည်ပေါက်ရရှိရေး ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့်ကိစ္စ။

၁။ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၂၅ ရက် (ဗုဒ္ဓဟူး)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၃/၂၀၁၅) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

ပြည်ထောင်စုဝန်ကြီး
ကျန်းမာရေးဝန်ကြီးဌာန

၆၈။ ရန်ကုန်တိုင်းဒေသကြီး၊ရန်ကုန်အနောက်ပိုင်းခရိုင်၊ လမ်းမတော်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀$^{F}$)၊ မြေကွက်အမှတ်(၁၀$^{B}$)ရှိ ရန်ကုန်နယ်မြေ (ရန်ကုန် ထောင်ကြီး)အမည်ပေါက် မြေဧရိယာ(၃၆.၈၅၀)ဧက အနက်မှ မြေဧရိယာ(၁၀.၄၄၆)ဧကအား ဌာနပိုင်အမည်ပေါက်ရရှိရေး ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့်ကိစ္စ။

ကျန်းမာရေးဝန်ကြီးဌာန၏ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၂၃ ရက် နေ့စွဲပါ အမှာစာ အမှတ်၊ ၁ မက (က) ၂၀၁၅ (၉၃)။
အမှာစာကို သဘောတူကြသည်။

ဆောင်ရွက်ရန်၊
ကျန်းမာရေး။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## ပြည်ထဲရေးဝန်ကြီးဌာန

## အမိန့်ကြော်ငြာစာ ( ၁၅၃၇ / ၂၀၁၅ )

နေပြည်တော်၊ ၁၃၇၇ ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၁၂ ရက်

( ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၉ ရက် )

အမှတ်။ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်အနောက်ပိုင်းခရိုင်၊ လမ်းမတော်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် ( ၂၀$^{F}$ )၊ မြေကွက်အမှတ် ( ၁၀$^{B}$ )ရှိ၊ ရန်ကုန်နယ်မြေ(ရန်ကုန်ထောင်ကြီး) အမည်ပေါက် **မြေဧရိယာ(၃၆.၈၅၀)ဧကအနက်မှ (၁၀.၄၄၆)ဧကအား** မြန်မာ - ဂျပန်ချစ်ကြည်ရေးဆေးရုံမြေနေရာအဖြစ် အသုံးပြုရန်အတွက် မြေနှင့်အခွန်အမိန့်ဆင့်ဆိုချက် ၃၃၂ အရ **ကျန်းမာရေးဝန်ကြီးဌာန** သို့ အခမဲ့လွှဲပြောင်းပေးလိုက်သည်။

အခမဲ့လွှဲပြောင်းပေးသည့်မြေသည် အမှုတွဲပါစစ်ဆေးအတည်ပြုထားသည့် မြေပုံအတိုင်းဖြစ်ပြီး **ကျန်းမာရေးဝန်ကြီးဌာန** က အသုံးမပြုသောနေ့တွင် နိုင်ငံတော်သို့ ပြန်လည်အပ်နှံရမည်။

ဒုတိယဗိုလ်ချုပ်ကြီးကိုကို
ပြည်ထောင်စုဝန်ကြီး

စာအမှတ်၊ ပထရ / ၂-၃ ( ၁၅၃၇ ) / ထောက် ၂

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၉ ရက်

**ဖြန့်ဝေခြင်း**

၁။ ဝန်ကြီးချုပ်၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊
၂။ ပြည်ထောင်စုဝန်ကြီး၊ ကျန်းမာရေးဝန်ကြီးဌာန၊
၃။ ပြည်ထောင်စုဝန်ကြီး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊
၄။ ဥက္ကဋ္ဌ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊
၅။ ညွှန်ကြားရေးမှူးချုပ်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊
( အမှုတွဲနှင့်အတူ ပူးတွဲပေးပို့ပါသည် )
၆။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန၊

လျှို့ဝှက်

Com- 4 / Su(2)Land/ (မြေလွှဲ)Nov (မြေလွှဲအမိန့်)

၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ ပုံနှိပ်ရေးနှင့်စာအုပ်ထုတ်ဝေရေးလုပ်ငန်း၊(ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ပြန်တမ်းတွင် ထည့်သွင်းကြေညာပေးပါရန်)

၈။ အုပ်ချုပ်ရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊

၉။ ဌာနမှူး၊ မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊
( မြေအမည်ပေါက် ပြောင်းလဲသတ်မှတ်သွားရန် အကြောင်းကြားချက်ဖြင့် ပေးပို့သည် )

၁၀။ အုပ်ချုပ်ရေးမှူး၊ ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊

၁၁။ အုပ်ချုပ်ရေးမှူး၊ လမ်းမတော်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊

၁၂။ လှည့်လည်စာတွဲ၊

၁၃။ ရုံးလက်ခံ။

အမိန့်အရ

ထွန်းလှအောင်
အမြဲတမ်းအတွင်းဝန်

